# လေနှင်ရာ...အဝေး

## ဝေး... “Wayy”

{ဤဇာတ်လမ်းတွင်ပါသော ဇာတ်ကောင် နှင့် ဇာတ်လမ်းအသွားအလာ အားလုံးသည် စာရေးသူ၏ စိတ်ကူးယဉ်သက်သက်ဖြစ်ပါသည်။ }

# အပိုင်း ၁

နေ့စဉ်ဒူဝ သူ့အလုပ်တွေသည် မနက်ခင်း အလင်းရောင် ကမ္ဘာမြေပေါ်သို့ မစတင်မီအချိန်ကပင် စတင်ရသည်။ လင်းရောင်ခြည် ကမ္ဘာပေါ်သို့ စတင် ဖြန့်ကျက်သည်နှင့် သူ၏ ပထမပိုင်းအလုပ်တွေက ပြီးနှင့်နေရမည် ဖြစ်သည်။ ဒီနေ့ဆိုလျှင် အရှေ့အရပ်ဆီမှ အလင်းရောင်ပြပြပင် မြင်နေရသည် သူ့အလုပ်က အပြီးမသတ်နိုင်သေး…။ ကျိန်းသေသည်ကတော့ သူဒီနေ့ ကျောင်းနောက် ကျပေတော့မည်။ သူ့အလုပ်က မနက်ခင်းဆိုလျှင် သတင်းစာ နှင့် နွားနို့ပို့ပေးရသည့် အလုပ်ပင်ဖြစ်သည်။ သူဆယ်တန်းအောင်မြင်ပြီး တက္ကသိုလ် တက်မည့် အချိန်တွင် သူ့မိခင်က မမျှော်လင့်ဘဲ ဆုံးပါး သွားခဲ့သည်။ ဆွေမျိုးမရှိသည့် တစ်ကောင်ကြွက်ဘဝနှင့် မြို့ပေါ်သို့ တက္ကသိုလ်တက်ရန် ရောက်လာခဲ့သည်။

“ ဒီစက်ဘီးက ဒီနေ့မှ ခဏခဏ ချိန်းက ကျနေရတယ်လို့ …”

လေပြေတစ်ယောက်တည်း ညည်းညူရင်း နှင့်ပင် စက်ဘီးကို အသားကုန်နင်းနေမိသည်။

“ဂလောက် … ဂက်ဂက်…”

“ ပြောရင်းဆိုရင်း ချိန်းက ကျသွားပြန်ပါပြီ…”

လမ်းဘေးသို့စက်ဘီးကို ရပ်ကာ ချိန်းကြိုးကို ကြိုးစားတင်လိုက်သည်။

သွားပို့ရမည့် အိမ်တွေကလည်း ကျန်နေသေးသည်။ ဒီပုံစံအတိုင်းဆိုလျှင် ကြိမ်းသေတာကတော့ သူကျောင်းနောက်ကျပေတော့မည်။

“မင်းစက်ဘီးကို ပြင်လိုက်ဦးနော် ချိန်းကြိုးက ချောင်နေသလိုပဲ…”

ချိန်းကြိုးတင်ရင်း သူငယ်ချင်းဖြစ်သူ လွမ်းဝေပြောသည့် စကားကို ပြန်လည် ကြားယောင်မိသည်။ အခုမှ သူငယ်ချင်းဖြစ်သူ၏ စကားကို နားမထောင်ဖြစ်သည့်အတွက် နောင်တ ရနေမိသည်။

ချိန်းကြိုးကို ပြန်တင်ပြီး လမ်းတစ်ဖက်သို့ ကူးရန် စက်ဘီးလေးကို ကွေ့ပြီး အသားကုန်နင်းလိုက်သည်။ လမ်းတစ်ဖက်သို့ ဖြတ်အကူး တစ်ဖက်လမ်းချိုးမှ ကွေ့ဝင်လာသည့် ကားတစ်စီးက

“ကျွီး.........”

“ ဒုန်း... ခလွမ်း....”

ကားဘရိတ်အုပ်သည့်အသံ နှင့် စက်ဘီးလဲကျသည့် အသံတို့က တိတ်ဆိတ်နေသည့် ပတ်ဝန်းကျင်ကို ဆူညံသွားသည်။

လဲနေသည့် စက်ဘီးလေးကို အားပြုကာ လေပြေ ပြန်ထရန် ကြိုးစားလိုက်သည်။ သူ့ခြေထောက်က နာကျင်စွာ စူးခနဲခံစားလိုက်ရတာကြောင့် လေပြေ့ခန္ဓာကိုယ်လေးက ယိမ်းယိုင်ပြီးလဲကျသွားမလို ဖြစ်သွားသည်။ ထိုအခြေအနေကို တစ်ယောက်ယောက်က လှမ်းထိန်းလိုက်သည်။

လှမ်းထိန်းလိုက်သည့် လူကို လေပြေ လှမ်းကြည့်လိုက်သည်။ နံ့နက်ခင်း အလင်းရောင်ဖျော့ဖျော့ အောက်တွင်ပင် ထိုသူမျက်နှာက ကြည်လင် ရှင်းတောက်နေသည်။ သို့ပေမဲ့

သူ့မျက်နှာတွင် ခက်ထန်မာကြောသည့် အရိပ်အယောင်တို့က သိသိသာသာ ပေါ်လွင်နေသည်။

“ မင်း… ဘယ်နားထိသွားလဲ…”

ထိုသူက လေပြေ့ကို ထိန်းနေရင်းက မေးလိုက်သည်။

“ခြေထောက်ပဲ နည်းနည်းပါးပါး ထိသွားတယ်ထင်တယ်.. ဘာမှမဖြစ်ပါဘူး…”

“ ကိုယ်.. ဆေးခန်းလိုက်ပို့ပေးပါ့မယ်…”

“ ရပါတယ် မလိုပါဘူး… ခဏနေရင် ပြန်ပျောက်သွားမှာပါ…”

လေပြေပြောလိုက်သည့် စကားကို ထိုသူက နှုတ်ခမ်းလေး ကွေးကာ ယိသဲ့သဲ့ပြုံးလိုက်ရင်း…

“ဘာလဲ .. မင်းက လျော်ကြေးလိုချင်လို့လား… အခု ကိုနဲ့ ဆေးခန်းလိုက်ရင်… လျှော်ကြေးမရမှာ စိုးလို့လား…”

“ခင်ဗျား… ခင်ဗျား ဘာစကားပြောတာလဲ…”

“ မင်းလိုလူမျိုးတွေ ငါအများကြီး မြင်ဘူးပြီးသားပါ… အဲ့ဒီတော့ ငါနဲ့ ဆေးခန်းကို လိုက်ခဲ့ပါ..”

“ ခင်ဗျားဆီက လျော်ကြေးလိုချင်တယ်လို့ ကျွန်တော့် ပါးစပ်က ပြောမိလို့လား… ခင်ဗျားတို့လို ချမ်းသာတဲ့ သူတွေက လူတကာအပေါ် အထင်သေးအမြင် သေးနဲ့ ဆက်ဆံကြတာပဲ…”

“ အဲ့ဒါကြောင့် မင်းဆေးခန်းကို လိုက်မှာ လား… မလိုက်ဘူးလား…”

“ကောင်းပြီလေ ကျွန်တော် လိုက်ခဲ့မယ်…”

ထိုသူက လေပြေ့ကို ကူတွဲကာ ကားဆီသို့ ခေါ်ဆောင်သွားသည်။

“အ…” နာကျင်နေသည့် ခြေထောက်ကို ထိသွားတာ ကြောင့် လေပြေ နှုတ်မှ အာမေဋိတ်တစ်ချို့ ထွက်ကျ လာသည်။

“ မင်းခြေထောက်က အတော်ထိသွားတာပဲ…”

“ ဟို..ဟို… ကျွန်တော့် စက်ဘီး…”

“အဲ့စက်ဘီးကို ထားလိုက်တော့ ကို အသစ်ဝယ်ပေးမယ်..”

“ မလိုပါဘူး ကျွန်တော်ပြင်ပြီး ပြန်စီးလို့ရတယ်… မဟုတ်ရင် စက်ဘီးအသစ်လိုချင်လို့ ဒီလို ဂွင်ဆင်တယ်ဖြစ်နေဦးမယ်…”

“ အဟ်…”

ထိုသူက လေပြေ စကားကို သဘောကျသွားသည့် ပုံစံနှင့် ဟ်ကနည်း ရယ်လိုက်သည်။ သူရယ်လိုက်ရင် သိသာသွားတာက သူ့ရဲ့ပါးချိုင့်လေးဖြစ်သည်။ ထင်းကနဲ့ပေါ်လာသည့် ပါးချိုင့်လေး က ကြည့်ကောင်းသည့် သူ့ရုပ်ရည်ကို အရောင်ထပ်တင်လိုက်သလို ပို၍တောက်ပသွားသည်။

“မင်းက ငါ့စကာကို ပြန်ချေပလိုက်တာပဲ… ရပါတယ် ကိုယ်ဝယ်ပေးပါ့မယ်… အဲ့လိုမထင်ပါဘူး…”

လေပြေသူ့ကို မည်သည့် စကားမှ ထပ်ပြောဖြစ်တော့…

ပုဂ္ဂလိက ဆေးရုံကြီး တစ်ခုရှေ့သို့ရောက်သည်နှင့် သူ့ကားကို ရပ်ကာ ဆေးရုံထဲသို့ လေပြေကို တွဲခေါ်သွားလိုက်သည်။

" အကို ရောက်နေပြီလား..."

ဆေးရုံက နာစ်မလေးကို ရင်းနှီးနေသည့် သူတစ်ယောက်လို သူမေးလိုက်သည်။

" ဆရာက ရောက်နေပါပြီ.. ကိုရှိုင်းက ဘာဖြစ်လာတာလဲ..."

" ကို ဖြစ်လာတာမဟုတ်ဘူး... ဒီဘက်ကတစ်ယောက်..."

" သြော်... ဒီကုတင်ပေါ်တင်လိုက်လေကို ရှိုင်း... ဆရာခဏနေ လာပါလိမ့်မယ်..."

ဆရာမလေးညွှန် ပြသည့် ကုတင်ပေါ်သို့ လေပြေကို တင်ထားပြီး မကြာမီ ဒေါက်တာ ရောက်လာသည်။

" ဘာတွေဖြစ်လာပြန်ပြီလဲ...ရှိုင်း.."

" ဘာမှ မဖြစ်ပါဘူးအကိုရ... ဒီတစ်ယောက်ကို ကားနဲ့တိုက်မိတော့မလိုပဲ ဖြစ်သွားတာပါ ဟီးဟီ..."

ဆရာဝန်နှင့် ပြောတော့လည်း သူ့ပုံစံက ကလေးတစ်ယောက်လို အပြစ်ကင်းစင်လို့ တတ်လည်းတတ်နိုင်တဲ့သူ...

“ ကားမောင်းတာ သတိထားမောင်းလေ... မတော်တဆ တိုက်မိသွားရင် ဘယ်လိုလုပ်မလဲ...”

ဆရာဝန်က သူနှင့် စကားပြောနေရင်း အကွယ်မှ ထွက်လာကာ လေပြေနားသို့ရောက်လာသည်။ လေပြေသည် ထိုဆရာဝန်ဖြစ်သူကို မြင်လိုက်သည်နှင့် လေပြေစိတ်ထဲ ရင်းနှီးနေသည့် လူတစ်ယောက်လို ခံစားရပြီး လေပြေ ဆရာဝန်ကို စိုက်ကြည့်နေမိသည်...

“ ဟိုတစ်ယောက် ... ဆရာမေးတာဖြေလိုက်လေ...”

လေပြေဘယ်လောက်တောင် သတိမေ့ ကြည့်မိနေလဲမသိ... ရှိုင်းက လေပြေ့ကို ထိကာ ပြောလိုက်တော့မှ လေပြေ ပြန်လည်သတိဝင်လာသည်။

“ တောင်းပန်ပါတယ်ဆရာ... ကျွန်တော်အတွေးလွန်သွားလို့...”

“ရပါတယ် ဘာမှမဖြစ်ပါဘူး… ပြောဆရာ့ကို ဘယ်နေရာ နာနေလဲ…”

ဆရာအသံက ချိုချိုလေးနှင့် ကြည်ကြည်လေးထွက် ပေါ်လာသည်။ ထိုအသံကပင် အနာတွေကို တစ်ဝက်လောက်သက်သာသွားသည်ထင်..။

“ ဟို..ကျွန်တော့် ခြေထောက်…”

“ခြေထောက်ကလား… ဟုတ်ပြီ… ဆရာကြည့်ပေးမယ်.. စိတ်ကို လျှော့ထားနော်…”

ဆရာဝန်က လေပြေ့ခြေထောက်ကို ကိုင်ကာ လှူပ်ကြည့်လိုက်သည်။

“အ…”

စူးကနဲ နာကျင်သွားတာကြောင့် လေပြေနှုတ်မှ “အ..” ကနဲ အသံထွက်လာသည်။

“ ဒီလို လုပ်ရင်နာတာလား… ဒီလိုဆိုရင်ရောနာတာလား…”

ဆရာက လေပြေ့ခြေထောက်ကို ဘယ်ညာရွေ့နောက် လှုပ်ကာမေးလိုက်သည်။ လေပြေခေါင်းကို ရမ်းပြလိုက်သည်။

“ဒါဆို ဘာမှမဖြစ်ပါဘူး… အဆစ်လွဲသွားတာပါ… အရမ်းမဆိုးပါဘူး… ဆရာဆေးစည်းပေးလိုက်မယ်… သောက်ဆေးပေးလိုက်မယ်… ဆရာပြောတဲ့အချိန်တိုင်း ပုံမှန်သောက်ပေး… ပျောက်သွားလိမ့်မယ်… ဒါပေမယ့် အခု အတောအတွင်း… ခြေထောက်ကို အနားပေးရလိမ့်မယ်… အရမ်းကြီး လှုပ်လှုပ်ရှားရှားမလုပ်ရဘူး…”

“ ဟိုလေ… ကျွန်တော် စက်ဘီးစီးလို့ ရသေးလားဆရာ…”

“ စက်ဘီးကတော့ လက်တလော စီးလို့မရသေးဘူး…”

ဆရာဝန်၏ ပြောစကားကြောင့် လေပြေ ခေါင်းငိုက်ကျသွားသည်။ သူ့အလုပ်က စက်ဘီးစီးမှ အဆင်ပြေတာ မဟုတ်လား…။

ဒါကို သတိပြုမိသည့် ရှိုင်းက

“မင်းအလုပ်အတွက်ဆိုမပူနဲ့… မင်းနားရမယ့်နေ့တွေ အတွက် ငါမင်းရဲ့လုပ်အားခတွေကို အလုံအလောက် ပေးခဲ့မှာပါ…”

“ ခင်ဗျားပေးတိုင်း … ကျွန်တော်က ဘာလို့ ယူရမှာလဲ…”

“ အခုက ငါ့ကြောင့် ဖြစ်တာဆိုတော့ ငါတာဝန်ယူရမှာပဲ..”

“ မလိုပါဘူး… ဒီလောက်လေးဖြစ်ရုံနဲ့ ကျွန်တော့် တစ်ဘဝလုံးကို တာဝန်ယူစရာ မလိုပါဘူး…”

“ အဟ်… မင်းတစ်ဘဝလုံး တာဝန်ယူမယ်လို့ ငါမပြောမိပါဘူး.. မိန်းကလေးဆိုရင်တော့ မပြောတတ်ဘူး…”

ရှိုင်းပြောလိုက်သည့် စကားကြောင့် လေပြေ့ မျက်နှာတစ်ခုလုံး နီမြန်း သွားသည်။

“ ကဲပါ… ရှိုင်းကလည်း နောက်မနေနဲ့လေ… ဒါနဲ့ ညီရဲ့အမည်က…”

“လေပြေပါဆရာ…”

“လေပြေ… အင်း… လေပြေ… ကို့အမည်က နွေဦးပါ… ဒဏ်ရာ မသက်သာရင်… ဆရာ့အမည်ပြောပြီး ဒီမှာ လာပြလို့ရတယ်…”

“ ဟုတ်ကဲ့ပါဆရာ…”

နွေဦး… ဆရာအမည်က နွေဦးတဲ့ ဘယ်လောက်တောင် လှတဲ့ အမည်လေးပါလိမ့်…လေပြေစိတ်ထဲက တွေးလိုက်သည်။

“ဟုတ်ကဲ့ဆရာ… ကျေးဇူးတင်ပါတယ်..”

“မင်းနေတဲ့နေရာက ဘယ်မှာလဲ ငါပြန်လိုက်ပို့ပေးမယ်..”

“ … လမ်းက ……… အဆောင်…”

“ဒီနေရာနဲ့နီးသားပဲ… အဆင်မပြေတာ တစ်ခုခု ဆိုအချိန်မရွေးပြန်လာခဲ့နော်..”

ဟု ဒေါက်တာနွေဦးက ပြောလိုက်သည်။

“ ဟုတ်ကဲ့… ခြေထောက်က သိပ်မနာတော့ပါဘူး ဆရာ…”

“ ဒါဆို အကို… ကျွန်တော် လိုက်ပို့ လိုက်ဦးမယ်… နောက်မှ ဆုံကြမယ်နော်…”

ဟုပြောပြီး လေပြွေကို တွဲထူလိုက်သည်။

အခန်းဝရောက်သည့် အခါ ဒေါက်တာနွေဦးကို လေပြွေ လည်ပြန်လေး လှည့်ကြည့်လိုက်သည်။ ဒေါက်တာက လည်းလေပြွေကို ကြည့်နေသည့် အကြည့်ချင်းဆုံသွားသည်။ အကြည့်ချင်းဆုံးသွားသည့် အခိုက်အတန့်တွင် လေပြွေရင်ထဲ ဖော်မပြတတ်သော ခံစားချက်တစ်ချို့ဝင်ရောက်လို့လာသည်။ ထိုခံစားချက်က….

………………………………

“ ဒါကအဆောင်ကို သွားတဲ့လမ်းမဟုတ်ဘူးလေ… ဘယ်ကို မောင်းနေတာလည်း…”

“ကျွိ..”

တစ်နေရာအရောက် ကားကို ရပ်ကာ ရှိုင်းက လေပြေရှိရာ ကားတံခါးကို လာဖွင့်ပြီး…

“ရောက်ပြီ.. ခင်ဗျားလေးအတွက်… စက်ဘီးပြန်ဝယ်ပေးမလို့လေ..”

“ ကျွန်တော့ စက်ဘီးကို ပဲ ပြန်ပြင်ပြီး သုံးပါ့မယ်ဆို… ကျွန်တော်က အခွင့်ရေးသမားလို့ အပြောမခံနိုင်ဘူး…”

“ငါ့ကြောင့် ဖြစ်တာကြောင့် ဝယ်ပေးတာပါ.. ဟုတ်ပြီလား… ရွေးရအောင်.. ကားပေါ်ကဆင်း…”

ပြောရင်း လေပြေကို လှမ်းတွဲကာ ဆိုင်ထဲသို့ ခေါ်သွားသည်။

"မင်းကြိုက်တဲ့ စက်ဘီးရွေး ငါဝယ်ပေးမယ်.."

"ရပါတယ် ကျွန်တော့်စက်ဘီးက တစ်ပတ်ရစ် (သူများ သုံးပြီးသား) ကို ပြန်ဝယ်ထားတာ… အသစ်မဝယ်လည်း ရတယ်…"

" ဟ… အသစ်ဆိုင်ရောက်နေပြီးမှ Used ကိုမေးနေရမှာလား… မင်းက အတော်လေးတုံးတာလား ဉာဏ်တိမ်တာလား စဉ်းစားလို့တောင်မရဘူး… တော်ပြီ ငါရွေးတဲ့ စက်ဘီးပဲ စီးတော့.."

လေပြေကို ထိုင်ခုံမှာ ထိုင်ခိုင်းပြီး စက်ဘီးတွေကို ရွေးကာ ရွေးလို့စိတ်ကြိုက်တွေ့သွားသည့် ထင်သည့် စက်ဘီးတစ်စီးကို ရှိုင်းက လေပြေရှေ့သို့ တွန်းလာခဲ့သည်။

"ဒီဘီးလောက်ဆိုရင် စီးဖို့ အဆင်ပြေလောက်လား…"

ရှိုင်းတွန်းလာသည့် စက်ဘီးကို လေပြေ ကြည့်လိုက်သည်။ ပြီးနောက် ကပ်ထားသည့် ဈေးနှုန်းကို ကြည့်ပြီး လေပြေ မျက်လုံးပြူးသွားသည်။

“ ဒီဘီးကြီးက ပြိုင်ဘီးကြီးမဟုတ်ဘူးလား… ကျွန်တော်က ရှေ့မှာ ပစ္စည်းတင်တဲ့ ခြင်းပါတဲ့ ရိုးရိုး စက်ဘီးဆို ရပါတယ်… ပြီးတော့ ဈေးက အရမ်းကြီးတာပဲ… အဲ့လောက်ကြီးမလိုပါဘူး…”

“ မင်းက အတော်စကားများတာပဲ… ငါကကောင်းမယ်ထင်တဲ့ဟာ ဝယ်ပေးတာ ရှေ့မှာ ခြင်းလိုချင်တယ်မဟုတ်လား… ခြင်းတပ်ပေးမယ်…”

“ ဖျောက် ဖျောက်…”

ရှိုင်က လက်ဖျောက်တီးကာ ဆိုင်ရှင်ကို လှမ်းခေါ်လိုက်သည်။

“ ဟုတ်ကဲ့… ဆရာဘာလိုချင်လို့ပါလဲ…”

“ ဒီဘီးကို ရှေ့မှာ ခြင်းတပ်လို့ရလား…”

ဆိုင်ရှင်ခေါင်းကို ကုတ်ကာ…

“ ရတော့ရပေမယ့်… သေးသေးလေးပဲရပါလိမ့်မယ်…”

“ ဘယ်လောက်သေးလဲ..”

“ ရေသန့်နှစ်ဘူးထည့်လို့ ရသလောက်ပဲ…”

ဆိုင်ရှင်စကားကြောင့် သူ့နှုတ်ခမ်းတွေက မဲ့ရွဲ့သွားပြီး…

“ ဒါဆို အဆင်မပြေဘူးပဲ…ခြင်းကြီးကြီးလေးနဲ့ နင်းရ အဆင်ပြေမယ့်ထဲက… ကောင်းကောင်းလေးရွေးပေးပါ…”

လေပြေစိတ်ထဲက ‘ဘာလဲ… ဒီလူက ငွေရှိကြောင့် ကြွားချင်တာလား…’

“ ဒါလေးက အဆင်ပြေမယ်ထင်တယ်…”

ဆိုင်ရှင်တွန်းလာသည့် စက်ဘီးကို ရှိုင်းက ယူလိုက်ပြီး … လေပြေရှေ့သို့ပြကာ

“ဒီလောက်ဆို အဆင်ပြေလား..”

“ ဒီဘီးက အဆင်ပြေပေမယ့်… ဈေးက…”

“ ရပြီ.. ဒီဘီးယူမယ် ဦးလေး…”

လေပြေ စကားပင် မဆုံးလိုက်ရ... စက်ဘီးကို ယူကာ ငွေသွား ရှင်းပြီးဖြစ်သည်။

'ဒီလူ... တကယ့်လူပဲ... တော်သေးတာပေါ့ ငါ့ခြေထောက်က အရမ်းကြီး ဘာမှ မဖြစ်လို့... ငါ့ ခြေထောက်သာ ကျိုးရင် ဘယ်လိုများနေမလဲမသိဘူး...'

လေပြေစိတ်ထဲက တိတ်တိတ်ကလေးရေရွက်လိုက်သည်။

အဆောင်ရှေ့သို့ ရောက်သည်နှင့် သူငယ်ချင်းဖြစ်သူ လွှမ်းဝေက ကားနားသို့ လာကာ လေပြေကို တွဲပေးသည့်။

" ဘယ်လိုဖြစ်ရတာလဲကွာ... ငါပြောတယ် မဟုတ်လား... သတိရှိရှိသွားပါလာပါဆိုတာ... အခုတော့ ဖြစ်ပြီမဟုတ်လား.. ဒီပုံစံနဲ့ဆိုရင် ကျောင်းကို ဘယ်လို တတ်မလဲ့..."

" ကျောင်း... ဘယ်ကျောင်းကို တက်နေတာလဲ..."

လွှမ်းဝေအပြောကို ကြားဖြတ်ကာ ရှိုင်းက မေးလိုက်သည်။

“ ဘာလုပ်မလို့လဲ... စက်ဘီးဖိုးကို လိုက်တောင်း မလို့လား...”

“ ဟာ... မဟုတ်ပါဘူး... ကိုက .........တက္ကသိုလ်မှာ တက်နေတာလေ...”

“ ဟာ... တူတူပဲဗျ... ကျွန်တော်တို့ နှစ်ယောက်လည်း အဲ့ဒီမှာ တက်တာ... “

ဒီတစ်ခါ ကြားဖြတ်ပြောလိုက်သူ က လွမ်းဝေဖြစ်သည်

“ ဟုတ်လား... ဒါဆိုကျောင်းမှာ ဆုံကြတာပေါ့....”

“ အခုက နောက်ဆုံးတွေ့ဆုံခြင်းဆို ပိုမကောင်းဘူး လား...”

ဟု လေပြေက ရှိုင်းကို မကြည့်ဘဲ ပြောလိုက်သည်။ ဒါကို ရှိုင်းက မျက်မှောင်ကြုံ့ကာ လေပြေကို ကြည့် လိုက်ပြီး...

“ဒါဆိုနောက်မှ တွေ့ကြတာပေါ့... ကျွန်တော်သွားပြီ...”

“ဟုတ်ကဲ့...”

ဟုဆိုကာ လက်ပြန္ရွတ်ဆက်နေသည့် လွမ်းဝေလက်ကို လေပြေက ရိုက်ကာ…

" မင်းဘယ်လိုဖြစ်နေတာလဲ…"

" ဒီလို သူဌေးသားတစ်ယောက်နဲ့ မိတ်ဆွေဖြစ်လည်း နည်းလား… အကူညီလိုရင် အကူအညီတောင်းလို့ ရတာပေါ့…"

လွမ်းဝေပြောလိုက်သော စကားကို လေပြေက မနှစ်မြို့စွာ

" အဲ့ဒါတွေကြောင့် ငွေရှိတဲ့သူတွေက ငါတို့တွေကို မတူသလို အတန်းသလို ဆက်ဆံတာသိလား… ကျောင်းမှာ သူနဲ့ မတွေ့ဖို့ပဲ မျှော်လင့်ပါတယ်…"

++++++++++++++++++++++++++++++++++

## အပိုင်း ၂

"မွေးနေ့က ဘယ်မှာကျင်းပမှာလဲ..."

ဖုန်းဆက်လာသည့် သူငယ်ချင်းကို ရှိုင်းမေးလိုက်သည်။

"ငါတို့ Paradise စားသောက်ဆိုင် မှာ လုပ်ကြမှာ... အားရင် လာခဲ့ပေးပါကွာ..."

တစ်ဖက်မှ ပြန်ဖြေလိုက်သည်။

" စားသောက်ဆိုင် ? ... ငါအဲ့လိုနေရာတွေ မလာတတ်တာ မင်းတို့လည်းသိတာပဲလေ..."

ရှိုင်းသည် လူပေါင်းစုံနှင့် ရှုပ်ရှက်ခတ်နေသည့် နေရာတွေကို မနှစ်သက်ပါ.. Bar သွားမည်ဆိုလျှင်တောင် အေးအေးဆေးဆေး နေလို့ရသည် နေရာ (သို့မဟုတ်) လူသန့်သည့် Bar (လူကုန်ထန်တွေသာ လာနိုင်သည့် bar) ထိုသို့သော နေရာတွေသာ သွားတတ်သည် မဟုတ်လား..။

“ မင်းအကြောင်းသိလို့ … VIP Room ကို ကြိုမှာထားပါတယ်ကွ.. လာစမ်းပါကွာ… ငယ်သူငယ်ချင်း မွေးနေ့ကို … မင်းမလာရင် အဲ့ကောင်ကြီးက စိတ်မကောင်းဘဲ ဖြစ်နေလိမ့်မယ်”

“ကောင်းပြီလေ… ငါခဏပဲ နေမှာနော်… မျက်နှာ ပြရုံဆို ရပြီမဟုတ်လား…”

“Ok ရှိုင်း… မင်းလာမယ်လို့ ငါပြောလိုက်မယ်နော်…”

“အင်း…”

တစ်လုံးတည်း မဖြစ်မနေသာ ဖြေပြန်ပေးလိုက်ရသည် ထိုနေရာသို့ သူမသွားချင်ပေ…။ အရင်းနှီးဆုံး သူငယ်ချင်းခေါ်၍သာ သူမငြင်းသာ၍ သွားရမည်ဖြစ်သည်။

“ဟိုတစ်ယောက် ခြေထောက် သက်သာရဲ့လား မသိဘူး…”

သူ့ကားနှင့် တိုက်မိသည့် လေပြေကို သတိရသွားကာ ရှိုင်း တစ်ယောက်တည်း တီးတိုးရေရွတ်လိုက်သည်။

“ သက်သာလို့ပဲနေမှာ ပါ… မသက်သာရင်ဆက်ဖို့ ငါ့ဖုန်း နံပါတ်လည်းပေးခဲ့တာပဲလေ… အဆင်မပြေရင် ဆက်မှာ ပေါ့… “

လက်ထဲက ဖုန်းကို ချကာ လုပ်လက်စ လေ့ကျင့်ခန်းကို ပြန်လုပ် နေလိုက်သည်။

++++++++++++++++++++++

စားသောက်ဆိုင်ထဲ ဝင်လိုက်သည် ဆိုရင်ဘဲ… သွားလာ သောက်စား နေသည့် လူတွေကို ကြည့်ကာ ရှိုင်းမျက်မှောင်ကို ကြုံ့လိုက်သည်။

“ အဲ့ဒီကောင်က မွေးနေ့ကို ဘယ်လိုဖြစ်လို့ ဒီလိုနေရာမှာ လာကျင်းပရတာလဲ…”

ဘေးနားပါလာသည် သူငယ်ချင်းဖြစ်သူ မင်းမင်း ကိုမေးလိုက်သည်။

“ သူ့ယောက်ခမလောင်းရဲ့ ဆိုင်လေ… အဲ့ဒါကြောင့် ဒီမှာ လုပ်တာ…”

“ တယ်ကောင်းတဲ့ သမက်လောင်းပါလား… သူ့ဘာသာ ဖားချင်လို့ လုပ်တာက အရေးမကြီးဘူး… ငါ့တို့အတွက် က အဆင်ပြေမနေဘူး…”

“ခဏာပါပဲကွာမင်းကလည်း… ဟိုမှာ သူလာနေပြီ… မျက်နှာပျက်မနေနဲ့ဦး…”

“ မင်းမင်းရောက်လာပြီလား… ရှိုင်းပါ ပါလာတာလား… ငါကမင်း မပါလောက်ဘူးတောင်ထင်ထားတာ…”

“ မင်းမင်း အတင်းခေါ်လိုက်လာတာ… ဒီလိုနေရာတွေငါ မလာတတ်တာ မင်းသိတယ်မဟုတ်လား…”

ရှိုင်းက ရုပ်တည်ကြီးဖြင့် ပြောလိုက်တာကြောင့် မွေးနေ့ရှင် သူငယ်ချင်းက အားနာသွားဟန်ဖြင့် ခေါင်းကုတ်ကာ

“ ငါသိပါတယ်ကွာ… ရောက်လက်စနဲ့တော့ အထဲဝင်ဦး လေ… မင်းတို့အတွက်က သီးသန့်ခန်း စီစဉ်ထား တယ်…”

“ လာပါကွာ.. ရှိုင်းကလည်းဝင်ကြရအောင်… တော်ကြာ မွေးနေ့ရှင်စိတ်မကောင်းဖြစ်နေပါလိမ့်မယ်… “

မင်းမင်း၏ အတင်းခေါ်ဆောင်မှုကြောင့် မျက်နှာပြုံရုံသာ လာခဲ့သည့် ရှိုင်းတစ်ယောက် ဆိုင်ထဲသို့ တွန့်ဆုတ်တွန့်ဆုတ်ဖြင့် လိုက်ဝင်သွားသည်။ ရှိုင်းက အရပ်ရှည်သည့် အပြင် ကြည့်ကောင်းသည့် ရုပ်ရည်ကြောင့် စားသောက်ဆိုင်ထဲ အလုပ်လုပ်နေသည့် မိန်းကလေးများ၏ အာရုံစိုက်မှုကို ရရှိလို့နေသည်။

VIP အခန်းထဲသို့ ရောက်သည့် ဆိုရင်ဘဲ… သူငယ်ချင်း အတော်များများကို တွေ့လိုက်ရသည်…။

“ကျစ်…”

စိတ်ဘဝင်မကျစရာတစ်ခုကို တွေ့လိုက်တာကြောင့် ရှိုင်းနှုတ်က ရေရွတ်လိုက်သည်။ ရှိုင်းကို အမြဲကပ်တွယ်နေတတ်သည့်သူမ…။ နီရဲရဲ မီးတွေ တောက်လောင်နေသလို နှုတ်ခမ်းနီကြောင့် ‘နှင်းဆီမေ’ ဆိုသော သူမ၏ sexy ဆန်ဆန် အလှက သိသာ ပေါ်လွင်လို့နေသည်။ သို့သော်လည်း သူမ၏ အလှက ရှိုင်းကို တော့ ဆွဲဆောင်နိုင်ခြင်းရှိမနေပေ…။

"Oh…God…. ရှိုင်းပါရောက်လာတာလား… တို့ထင်တာ.. ရှိုင်းက ဒီလိုနေရာတွေ မလာတတ်ပါဘူး…"

" ဟုတ်တယ်.. ငါ့အသေအချာဖိတ်ထားလို့လာတာ…"

ဟု မွေးနေ့ရှင်က ကြားဖြတ်ပြောလိုက်သည်။ ရှိုင်းကတော့ သူမကို အရေးတယူလုပ်ကာ ဖြေကြားခြင်းများမလုပ်ပေ။

"ယူ.. ကျောင်းမလာတော့ ကတည်းက မတွေ့တော့တာ… အခု ယူကပိုကြည့်ကောင်းလာသားဘဲ…"

"….."

သူမပြောစကားများကို ရှိုင်းဘက်က မည်သို့မှ ခွန်းတုံ့ပြန်ခြင်း မရှိပေ။ ရှိုင်းစိတ်ထဲ သူမကို ရှိနေတယ်လို့ပင် မမှတ်ထားပေ။

"ရှိုင်းဘာစားမလဲ… မှာစရာရှိတာ မှာလို့ရအောင် စာပွဲထိုးကို ခေါ်လိုက်မယ်…"

ဟုပြောရင်း မွေးနေ့ရှင်က နံရံက ခလုတ်လေးကို နှိပ်လိုက်သည်။

" ရတယ်… ငါမစားတော့ဘူး ခဏနေပြန်တော့မှာ…"

ရှိုင်းက သီးသန့်နေရာတွင် လက်ပိုက်ကာ ထိုင်နေရင်းက ပြောလိုက်သည်။

“ မဟုတ်တာကွာ… ရောက်လာမှတော့ တစ်ခုခုတော့ စားသွားရမှာပေါ့..”

မင်းမင်းက မျက်စပြစ်ကာ ပြောလိုက်သည်။ ရှိုင်းက ခေါင်းကို တွင်တွင် ခါကာ လက်ထဲက ဖုန်းကို ကြည့်နေလိုက်သည်။ သူမကို မမြင်ချင်တာလည်း ပါသည်။

“ဒေါက်.. ဒေါက်..ဒေါက်…”

တံခါးခေါက်သံနှင့်အတူ စားပွဲထိုးလေးတစ်ယောက်က အခန်း ထဲသို့ ဝင်ရောက်လာခဲ့သည်။

“ လူကြီးမင်းတို့ ဘာများလိုအပ်သေးလဲမသိဘူး..”

ရင်းနှီးသည့် အသံကြောင့် ရှိုင်းတစ်ယောက် ဖုန်းကို ကြည့်နေ ရင်းမှ လှမ်းကြည့်လိုက်သည်။

“မင်း… မင်း….”

ရုတ်တရက် လေပြေကို တွေ့လိုက်ရတာကြောင့် ရှိုင်းက တစ်အံ့တသြအမူအရာဖြင့် ပြောလိုက်သည်...။

တစ်အံ့တသြ အမူအရာဖြစ်သွားသူက သူတစ်ယောက်တည်းဖြစ်သည်... လေပြေကတော့ သူ့ကို မသိသလိုပကတိတည်ငြိမ်ကာ။

“အကိုရော... ဘာမှာဦးမလဲ...”

ဟု ရှိုင်းဘက်သို့ လှည့်၍မေးလိုက်သည်။

“ရှိုင်း... ဖြေလိုက်လေ...”

ဟု မင်းမင်းက လှမ်းပြောလိုက်သည့် အခါမှ...

“အင်း... အဲ... အဆင်ပြေတာတစ်ခုခု ဆိုရပါတယ်...”

“သောက်စရာတစ်ခုခုယူဦးမလား ခင်ဗျာ...”

“ဟင့်အင်းရတယ်... မယူတော့ဘူး...”

“ဟုတ်ကဲ့… မှာစရာမရှိတော့ဘူးဆိုရင် ကျွန်တော် သွားပါတော့မယ့်.. လိုအပ်တာရှိရင် အချိန်မရွေး လှမ်းခေါ်ပါ… ကောင်းမွန်စွာ သုံးဆောင်ကြပါခင်ဗျ…”

“ လိုအပ်တဲ့အချိန်တိုင်း ခေါ်လို့ရတာလား…”

“ဗျာ….”

ရှိုင်း၏ အမေးကို ရုတ်တရက် မဖြေနိုင်ဘဲ လေပြေနှုတ်က အာမေဋိတ်သံသာ ထွက်ကျလာသည်။

“ဒါ… ဒါဆို… ကျွန်တော်သွားလိုက်ပါဦးမယ်…”

ရှိုင်း၏ အမေးကို မဖြေဘဲ လေပြေ အခန်းထဲက ထွက်လာခဲ့သည်။ အခန်းအပြင်ရောက်တော့မှ လေပြေခေါင်းကို ရမ်းကာ…

“ဒီအရူးကောင်ကို တွေ့မှ တွေ့တတ်တယ်…”

တစ်ယောက်တည်း တီးတိုးရေရွတ်ကာ ဆိုင်အနောက်ဘက်သို့ ခြေထောက် ထော့နဲ့ထော့နဲ့ဖြင့် ထွက်လာခဲ့သည်။

ဆိုင်အနောက်ဘက် ဆီသို့မရောက်မီ လမ်းခုလတ်၌ လေပြေ့ရှေ့မှ ပိတ်ဆို့လိုက်သည့် လက်တစ်စုံကြောင့် လမ်းလျှောက်နေရမှ တုံ့ခနဲ ရပ်တန့်သွားသည်။ မျက်ခွံကို လှန်ကာ ရှေ့က ပိတ်ဆို့ လိုက်သည့် လက်တစ်စုံ၏ ပိုင်ရှင်ကို ကြည့်လိုက်သည်။

“မင်း.. ကို့ကို မှတ်မိဘူးလား…”

“……………..”

ရှိုင်းက ရှေ့မှာရှိနေသည့် လေပြေမျက်နှာနားသို့ ကပ်ကာ တိုးတိုးလေး မေးလိုက်သည်။ လေပြေက သူ့ကို မည်သည့် ခွန်းတုံ့ပြန်မှု မှ မလုပ်ဘဲ ငြိမ်သက်နေလိုက်သည်။

“ မင်းဘာလို့ ကို့ကို မသိချင်ယောင် ဆောင်နေ ရတာလဲ…”

“နေပါဦး… မင်းကို တွေ့တာနဲ့… နှုတ်ဆက်ရအောင်… မင်းနဲ့ငါက… ရင်းနှီးတဲ့အဆင့်မှ မဟုတ်တာ… မတော်တဆ တွေ့မိရုံပဲမဟုတ်ဘူးလား…”

ဟု လေပြေက မျက်နှာကို မော့ကာ ရှိုင်းကို စူးစူးစိုက်စိုက် ပြန်ကြည့်ရင်း ခပ်မာမာပြန်ပြောလိုက်သည်။

"မင်းငါ့ကို တွေ့ရင် ပြုံးပြတာလောက်တော့ လုပ်လို့ ရပါတယ်… မင်း… ပြုံးတော့ပြုံးတတ်တယ် မဟုတ် လား…"

"………"

လေပြေက မည်သည့် စကားမှ ပြန်မပြောဘဲ ခေါင်းငိုက်ကျကာ ညိမ်သက်သွားသည်။ တကယ်ဆိုလျှင် လေပြေ ဘဝမှာ စိတ်လိုလက်ရ မပြုံးရတာ ဘယ်လောက်တောင် ကြာနေခဲ့ ပြီလဲ…။ တကယ်ဆို ဘယ်လောက်တောင်ကြာနေလည်း သူမမှတ်မိတော့ပါလေ… ဘာကြောင့် လဲဆိုတော့ ပြုံးချိန်ပင် မရှိတာ မဟုတ်လား…။ သူ့အပြုံးကို ပင် သူမမှတ်မိတော့ချေ…။

" ငါအလုပ်သွားလုပ်တော့မယ်.. ငါ့ရှေ့က ဖယ်ပေးပါ…"

လေပြေ၏ အသံက တိုးရှအပ်ကွဲစွာ ထွက်ပေါ်လာသည်။ ရှိုင်း သူ့ရဲ့လက်ကို ပြန်ရုတ်ပေးလိုက်ပြီး…

“မင်းခြေထောက် သက်သာ သွားပြီလား…”

ရှိုင်း၏အမေးကို လေပြေက မည်သည့်အဖြေမျှမပေးဘဲ… ဆိုင်၏ အနောက်ဘက်ထဲသို့ဝင်သွားသည်။

လေပြေ၏ ကျောပြင်ကို ကြည့်ရင်း ရှိုင်းစိတ်ထဲ အတွေးပေါင်း များစွာဖြင့်ကျန်ခဲ့တော့သည်…။

“ရှိုင်း… မင်းမဝင်တော့ဘူးလား… “

အခန်းရှေ့နံရံကို မှီကာ မတ်တပ်ရပ်နေသော ရှိုင်းကို သူငယ်ချင်း ဖြစ်သူ မင်းမင်း က မေးလိုက်သည်။

“ရတယ် မဝင်တော့ဘူး… အထဲမှာ နေရတာ စိတ်ကျဉ်း ကြပ်တယ်…”

“အပြင်မှာလည်း လူတွေအများကြီးပဲလေ… မျက်စိ မနောက်ဘူးလား…”

ဟုပြောလာသည့် မင်းမင်းကို ရှိုင်းက အမေးအမြန်းထူလှချည်လား ဟူသောအကြည့်ဖြင့် ဘုကြည့် ကြည့်လိုက်သည်။ အခိပ္ပါယ်ကို

သဘောပေါက်လွယ်သည့် မင်းမင်းက ဘာမှမပြောတော့ဘဲ အခန်းထဲသို့ ပြန်ဝင်သွားသည်။

ရှိုင်း၏ အကြည့်တွေက ဆိုင်ထဲတွင် စာပွဲထိုးနေသော လေပြေကို တစ်ချိန်လုံးလိုက်ကြည့်နေသည်။ ဘာကြောင့် သူဒီလိုလုပ်နေမိလဲ ဆိုတာ လည်း သူ့ကိုယ်သူဝေခွဲမရပေ…။

“ ဟော့ကောင်လေး… ရှီးရှီး… “

လူငါးယောက်လောက်ထိုင်နေသည့် ဝိုင်းတစ်ဝိုင်းက လေပြေကို လေချွန်ကာ လှမ်းခေါ်လိုက်သည်။ ထိုနေရာသို့ လေပြေ ရောက်သွားပြီး…

“ ဟုတ်ကဲ့… ဘာများအလိုရှိသေးလဲမသိဘူးခင်ဗျ..”

“နိုးနိုး… တစ်ခြားဘာမှ မလိုဘူး… ငါတို့က မင်းကို လိုတာ…”

စားပွဲဝိုင်းထဲက လူတစ်ယောက်က လေပြေလက်ကို ဆွဲကာ ပြောလိုက်သည်။

“ခင်ဗျာ…”

“ မင်းပုံစံက အရက်သောက်နိုင်မှာ မဟုတ်ဘူးဆိုပြီး… ဒီက ငါ့သူငယ်ချင်းက ပြောလို့.. မင်းဒီပုလင်း တစ်ပုလင်းကို ကုန်အောင်သောက်နိုင်တယ်လို့…. ငါနဲ့ ငါ့သူငယ်ချင်း လောင်းထားတာ… ဟဲဟဲ… အကိုကြီးကို ကူညီတဲ့အနေနဲ့ သောက်ပေးပါဦး …”

“ကျွန်တော်တို့တွေက အလုပ်လုပ်နေတဲ့ အချိန် သောက်လို့ မရပါဘူး ခင်ဗျ… တောင်းပန်ပါတယ်…”

“အဲ့ဒါဆိုရင် မင်းအလုပ်ဆင်းချိန်က ဘယ်အချိန်လဲ… အကိုတို့စောင့်ပေးမယ်…”

“ အဲ့လိုလုပ်လို့မရပါဘူးခင်ဗျ…”

“အဲ့လိုလုပ်လို့မရရင်… မင်းအခု သောက်ဖို့လိုအပ်နေပြီ ကောင်လေး…”

“ လူကြီးမင်း မူးနေပြီးထင်တယ်ခင်ဗျ… ကျွန်တော်က…”

"ဘာကွ.. မင်းက ငါ့ကို အမှုးသမားလို့ ပြောချင်တာလား..."

"ဖြန်း...."

ထိုသူက စိတ်ဆိုးသလို မျက်နှာကြီးနီမြန်းသွားကာ လေပြေ၏ပါးကို ဖြန်းခနဲ ရိုက်လိုက်သည်။ ထိုသူ့လက်တစ်ဖက်က လေပြေကို ကိုင်ထားတာကြောင့် မည်သို့ မှ ရှောင်ချိန်တောင်မရပဲ ထိုသူ၏ရိုက်ချက်က လေပြေပါးကို ပြင်းပြင်းထန်ထန် ထိမိသွားသည်။

နောက်တစ်ချက်ထက်ရိုက်ရန် ဝင်လာသည့် လက်ကို တစ်စုံတစ်ယောက်က ဖမ်းဆွဲလိုက်တာကြောင့် ရိုက်ရန်ဝင်လာသည့် လက်တစ်ဖက်က လေပေါ်တွင်သာ ရပ်တန့်သွားသည်။

"ခင်ဗျားတို့ ဘာလုပ်တာလဲ... သူ့ကို ပြန်တောင်းပန်လိုက်ပါ..."

ရှိုင်းက ထိုသူတွေကို ဒေါသတကြီးအော်ပြောလိုက်သည်။ ရှိုင်းက သူကိုင်ထားသည့် ထိုလူ၏ လက်ကို ဖြစ်ညှစ်လိုက်တာကြောင့် ထိုလူ့မျက်နှာက ရှုံ့မဲ့လို့နေသည်။

“ဘာလို့ ငါတို့က တောင်းပန်ရမှာလဲ... မင်းသာ အဲ့ဒီလက်ကို လွှတ်လိုက်...”

စားပွဲဝိုင်းထဲက တစ်ယောက်က ထ၍ပြောကာ ရှိုင်း၏ခေါင်းကို ရိုက်ခွဲရန် ဘီယာ ပုလင်းကို ကိုင်လိုက်သည်။

“ အဟတ်... ခင်ဗျားတို့က ဒီလိုလား...”

ရုတ်တရက် ရှိုင်းလှုပ်ရှားလိုက်သည်က မြန်ဆန်လွန်းလှသည်။ သူဖမ်းကိုင်ထားသည့် လက်ကို လွှတ်လိုက်ပြီး လေပြေကို ကိုင်ထားသည့် ထိုသူ၏ လက်ကို ရိုက်ချိုးလိုက်သည်?။ လက်အချိုးခံလိုက်ရသည့် လူက သူ့လက်ကိုကိုင်ကာ နာကျင်စွာ အော်ဟစ်နေတော့သည်။ ဝိုင်းထဲက နောက်တစ်ယောက်က ရှိုင်းခေါင်းကို ရိုက်ရန် ဘီယာပုလင်းကို မြှောက်လိုက်သည်။ ရှိုင်းက ထိုသူကို ခြေထောက်ဖြင့် ဆောင့်ကန်လိုက်တာကြောင့် ထိုသူက တစ်ခြားဝိုင်းသို့လွင့်စင်ထွက်သွားသည်။ ထိုအခါ

ကျန်တဲ့သူတွေကလည်း ရှိုင်းကို ထိုးရန် ထ’လာကြသည်။ ရှိုင်း၏ လက်တစ်ဖက်က လေပြေကို ကိုင်ကာ ထိုသူတွေကို ပြန်ခု ခံလိုက်သည်။ ရန်ပွဲကြောင့် တစ်ခြားဝိုင်းက လူတွေအကုန်လုံး ဆိုင်ထဲက ထွက်ကုန်ကြသည်။

ဆူညံသည့် အသံတွေကြောင့် VIP Room ထဲက လူတွေထွက်လာကြသည်။ တစ်ဆိုင်လုံး ရစရာမရှိအောင် ပျက်စီးနေပြီး လူငါးယောက်ကတော့ ထိုအပျက်အစီးပုံတွေထဲ လဲကျနေကြသည်။

“ အဲ့ဒီအပျက်အစီးတွေအတွက် … လျှော်ပေးလိုက်… ရော့…”

ရှိုင်းက သူ့အိတ်ကပ်ထဲက ပိုက်ဆံအိတ်ကို ထုတ်ကာ မင်းမင်းဆီ သို့ပစ်ပေးလိုက်သည်။ ထို့နောက်လေပြေဘက်သို့လှည့်ကာ..

“မင်း… အိတ်သွားယူလိုက်တော့.. မင်းကို ကိုယ်ပြန်ပို့ ပေးမယ်…”

“ရတယ်မလိုဘူး…”

လေပြေသည် သူ၏လက်ကိုကိုင်ထားသည့် ရှိုင်း၏လက်ကို ခါချကာ ဖြေလိုက်သည်။

ရှိုင်းက လွတ်ထွက်သွားသည့် လေပြေ၏လက်ကို ပြန်လည် ဖမ်းဆွဲကာ ဆိုင်အပြင်ရှိ သူ့ကားရှိရာသို့ခေါ်လာခဲ့သည်။ ထို့နောက် ရှေ့ကာတံခါးကို ဖွင့်ကာ လေပြေကို ကားထဲသို့ ဝင်စေလိုက်သည်။ လေပြေကားထဲသို့ရောက်သည်နှင့် ကားတံခါး ကို ပိတ်ကာ ကားကို တစ်ဟုန်ထိုးမောင်းထွက်လာခဲ့သည်။

ကားပေါ်တွင် နှစ်ယောက်စလုံး တစ်ယောက်နှင့် တစ်ယောက် စကားမပြောဘဲ တိတ်ဆိတ်စွာနေလာခဲ့ကြသည်။ ကားမှန်ပြတင်း က တစ်ဆင့် အပြင်ဖက်ရှိ တရိပ်ရိပ်ပြေးလွှားနေသော ရှုခင်း များကိုသာ ကြည့်ရင်း လေပြေတိတ်ဆိတ်စွာ လိုက်လာခဲ့သည်။ မည်သည့် စကားကို စပြောရမလဲလည်း သူမသိပေ။

လေပြေကို ရှိုင်းမသိမသာ လှည့်ကြည့်လိုက်သည်။ ထို့နောက်…

“မင်း… ကို့ကို ကျေးဇူးတင်တဲ့ စကားလေးတစ်ခွန်း လောက်တော့ ပြောသင့်တယ်မဟုတ်လား…”

“ ဘာလို့လဲ…”

ရှိုင်း၏ အမေးတို မတုံ့မဆိုင်းပဲလေပြေတုံ့ပြန်လိုက်မိသည်။

“ မင်းကို အခက်အခဲကြားက ကူညီပေးခဲ့လို့လေ…”

ကားမှန်အပြင်ဘက်ကိုကြည့်နေသည့် လေပြေက ရှိုင်းဘက်သို့ လှည့်လာကာ…

“ မင်းဆီက အကူအညီကို လိုတယ်လို့ ငါပြောမိလို့လား…”

လေပြေစကားကြောင့် ရှိုင်းခေတ္တမျှ စွံအတွေဝေသွားသည်။ ထို့နောက် လေပြေကို ရှိုင်းက ကြည့်ကာ

“ အကူအညီမတောင်းလဲ… ကိုက ကို့ရှေ့မှာ ဒုက္ခရောက်နေတာတွေ့ရင် မကူညီပဲ မနေနိုင်ဘူးလေ…”

“ ဒါဆို ဘာလို့ကျေးဇူးတင်စကား ပြောခိုင်းနေတာလဲ…”

“ ဘယ်လိုပဲဖြစ်ဖြစ်… ကို့ရဲ့အကူအညီကို အသိအမှတ်ပြုသင့်တယ်မဟုတ်လား…”

'ဒီလူဘယ်လိုဖြစ်လို့ အရမ်းကျေးဇူးတင်စကား ကြားချင်နေရတာလဲ... ရူးများနေလား..'

ဟုလေပြေစိတ်ထဲက တွေးလိုက်သည်။

ကားလေးက လေပြေတို့အဆောင်ရှေ့တွင် ရပ်တန့်လို့သွားသည်နှင့် လေပြေကားပေါ်က ဆင်းလိုက်သည်။ ရှိုင်းက ကားမှန်တံခါးကို ဖွင့်ကာ...

" မင်းအဲ့ဒီဆိုင်မှာ မလုပ်နဲ့တော့..."

" ငါအဲဒီဆိုင်မှာလုပ်တာ မလုပ်တာက မင်းနဲ့ မဆိုင်ပါဘူး..."

"မင်းဘာလို့ငါ့ကို ဆန့်ကျင်ဘက်တွေချည်း ပြောနေတာလဲ..."

"ငါက ဆန့်ကျင်ဘက်ပြောနေတာမဟုတ်ဘူး... မင်းက မင်းနဲ့ မဆိုင်တာတွေ ဝင်ပါနေတာ..."

“ စိတ်မကောင်းပေမယ့်… နောက်လည်းဝင်ပါနေ ရဦးမှာပဲ.. ငါသွားပြီ…”

ဟုပြောပြီး မောင်းထွက်သွားသည့် ကာကို ကြည့်ကာ လေပြေ တစ်ယောက် စိတ်ရှုတ်ထွေးစွာ ကျန်ခဲ့တော့သည်။

“သူက ဘာလို့.. ငါ့ဘဝကို ဝင်ရောက် စွက်ဖက် နေရတာလဲ…”

++++++++++++++++++++++++++++++++++

“ ညီလေးရေ… ကို ကြိုးဆီလာပါဦး…”

“သားလေး… မေမေ့ဆီလာပါဦး…”

“လေပြေ… လေပြေ… လေပြေ…”

ရုတ်တရက် လေပြေ အိပ်နေရာမှ အိပ်မက်ဆိုးကြောင့် လန့်နိုး လာခဲ့သည်။ ချွေးများက တစ်ကိုယ်လုံးရွှဲနစ်လို့နေသည့်။ မျက်နှာပေါ်တွင် ရွှဲစိုနေသည့် ချွေးစေးတွေကို လက်ဖဝါးနှင့် ဖယ်ချကာ ကုတင်ဘေးနားမှာ ထား’ထားသည့် ရေဘူးထဲက

ရေကို တစ်ဝက်ကျိုးသွားသည်အထိ အဆက်မပြတ် မော့သောက်လိုက်သည်။

လူက တာဝေးပြေးထားသည့် သူတစ်ယောက်လို မောဟိုက်နေသည်။ ဒီလိုအိပ်မက်မျိုးသူငယ်ငယ်က မက်ခဲ့ဘူးသည်။ အခုနောက်ပိုင်း မမက်ဖြစ်တော့သည်မှာ ကြာလှပြီဖြစ်သည်။ အခုတစ်ခါလည်း ဆွဲကြိုးလေး ပျောက်သွားပြီးကတည်းက ဒီအိမ်မက်ကို ပြန်မက်လာပြန်ပြီဖြစ်သည်။

ဒီအိပ်မက်တွေက သူ့အတိတ်နှင့် ဆက်စက်နေသည် ဆိုတာကတော့...

+++++++++++++++++++++++++

## အပိုင်း ၃

"ကျောင်းသွားတက်မလို့ ဟုတ်လား...."

မနက်စောစောရေမိုးချိုးကာ ပြင်ဆင်နေသည့် ရှိုင်း၏ အဖြေကြောင့် သူ့အမ တအံ့တသြမေးလိုက်သည်။

" ဟုတ်တယ်လေ... ဘာဖြစ်လို့လဲ ကျောင်းသားက ကျောင်းတက်လို့ မရဘူးလား..."

"ကျောင်းပြီးခါနီးမှ နင်ရူးသွားတာလား... ကျောင်းမသွားချင်ဘူးပြောလို့ အိမ်မှာ ဆရာခေါ်သင်နေခဲ့တာ မဟုတ်ဘူးလား... အခုကြမှ ရုတ်တရက်ကြီး ကျောင်းသွားမယ်တဲ့လား..."

" အိမ်မှာ စာသင်ရတာ ပျင်းလာလို့လေ... အဲ့ဒီလောက်ဆို အကြောင်းပြချက် ခိုင်လုံတယ် မဟုတ်လား..."

“ နင့်အကြောင်းပြချက်နဲ့ နင်ကတော့ ဟုတ်ပါပြီ… ကျောင်းမှာ ဘာပြဿနာဖြစ်တာမှ မကြားချင်တာ ကတော့ အမှန်ပဲ..”

“ အဟုတ်… အမမောင်က အမြဲပြဿနာရှာနေတတ်တဲ့ သူများ အောက်ခံမေ့နေလို့လား..”

“ ပြဿနာတော့ မရှာတတ်ပါဘူး… ပထမနှစ်ကလား ရန်ဖြစ်တာ တစ်ယောက်က မေးရိုးကျိုးသွားတယ်… နောက်တစ်ယောက်က နံရိုးကျိုးသွားတယ်… အဲ့ဒီလောက်လေးပါပဲပေါ့ဟုတ်လား…”

“ ဒါကလည်း ကျွန်တော့်ကို ရန်အရင် လာစလို့ပါ… အမကလည်း အရမ်းစကားများလာတာပဲနော်…”

“ ငါ့ ဒီမောင်လေး တစ်ယောက်တည်း ရှိလို့ စိတ်ပူလို့ပြောနေရတာပေါ့… ဒါနဲ့ နင့်ရဲ့ Gym ခန်းကို ရော… ဒီအတိုင်း လွှတ်ထားလို့ အဆင်ပြေရဲ့လား… ကုမ္ပဏီက လူတစ်ယောက်လောက်ကို ကြီးကြပ်ခိုင်း လိုက်ရမလား…”

“ အမ... ဘာတွေအဲ့လောက် စိတ်ပူနေတာလဲ... ကျွန်တော် ကလေးမဟုတ်တော့ဘူး... ကျွန်တော့် Trainer တွေကို သေချာ မှာထားပြီးသွားပြီ..”

“ မဆိုးပါဘူး ... ငါ့မောင်က ထင်သလောက်လည်း တုံးမနေဘူးကိုး...”

“တော်တာပါ... ကဲကဲ... ကျွန်တော် ကျောင်းသွားတော့မယ်... မှာတမ်းခြွေစရာရှိရင် နောက်မှ ဆက်တော့... ဘိုင့်....”

ရှိုင်း အမဖြစ်သူ မေသရဖူ ကို နှုတ်ဆက်ပြီး စားပွဲပေါ်က ပေါင်မုန့်ကို တစ်ကိုက်ကိုက်ကာ ကော်ဖီကို တစ်ခြိုက်တည်း မော့ချလိုက်တော့သည်။

မိဘတွေ မရှိတော့ကတည်းက သူမတစ်ယောက်တည်း အမေနေရာရော အဖေနေရာရောကပါ ရှိုင်းကို ပြုစုလာခဲ့သည်။ အငယ်ဆုံးလေးမို့ အစစ အရာရာအလိုလိုက်ခဲ့ရသည်။ ငယ်ငယ်လေးကတည်းက ဉာဏ်ကောင်းသည့် ရှိုင်းသည့် အသက် ၂၀ နှစ်တွင် သူဝါသနာပါသည့် Gym လုပ်ငန်းကို လုပ်ကိုင်ရန်သူမကာ

အရင်းအနှီးထုတ်ပေးခဲ့ရသည်။ ၁ နှစ်အတွင်း သူမထုတ်ပေးသည့် အရင်းအနှီးကို တစ်ကျပ်မကျန်အကုန်ပြန်ပေးနိုင်ခဲ့သည်။ ရှိုင်း၏ ဉာဏ်ကောင်းပုံမျိုးနှင့် ဆိုလျှင် ကျောင်းပြီးလို့ ကုမ္ပဏီကို လက်လွှဲရန် သူမစိတ်ချရပြီဖြစ်သည်။

သူမရှေ့မှာ ရှိနေသည့် ကော်ဖီခွက်ကို ယူကာ တစ်ငုံလာက်ကို အရာသာ ခံရင်း ဖြည်းဖြည်းချင်း သောက်လိုက်သည်။

ထို့နောက် သူမသည် တစ်စုံတစ်ယောက်ကို ဖုန်းလှမ်းဆက် လိုက်သည်။

“ မောင်လား… မောင်အခု ဆေးရုံမှာလား…”

“ ဟုတ်တယ်.. မ’ လာမလို့လား…”

“ မောင်အားရင်ပေါ့…”

“ မ’လာမယ်ဆိုရင်… အဆင်ပြေအောင်စီစဉ်ထားလိုက်ပါ့မယ်…”

“ကောင်းပြီလေ… မ’.. အလုပ်ကို သွားရင်းလှည့်ဝင်လာခဲ့ မယ်…”

“Ok…”

“ တူ..တူ..တူ…”

တစ်ဖက်မှ ဖုန်ချသွားသည်နှင့် သူမလက်ထဲက ဖုန်းကို ကြည့်ရင်း ပြုံးလိုက်မိသည်။ ကျားသစ်မ တစ်ကောင်လို မာန်ဟုန်ပြင်းသည့် သူမက သူနှင့် ပတ်သတ်လျှင် ယုန်သူငယ်လေးလို ဖြစ်သွားတတ်သည်။ သူမက ထိုအရာကိုပဲ သဘောကျ နှစ်သက်နေခဲ့သည် မဟုတ်လား…။

“ စိတ်ချပါမောင်… တစ်နေ့ကြရင် မောင်က မကို လူကြီးတွေ စီစဉ်တာကြောင့် မဟုတ်ပဲ… တကယ် ချစ်လာစေရမယ်…”

သူမလက်ထဲက ဖုန်းကို ချကာ သူမ၏ အနီရောင်ရင့်ရင့် နှုတ်ခမ်းနှစ်လွှာက မပွင့်တစ်ပွင့်လေးပြုံးလိုက်သည်။ ထိုအပြုံးက သူမအတွက် သိပ်ကို အဓိပ္ပါယ်ရှိသည့် အပြုံးတစ်ခုဖြစ်သည်။

အဘယ့်ကြောင့်ဆိုသော် သူမဘဝမှာ သူမလိုချင်တာအကုန်လုံး ရရှိခဲ့သည် ထိုကဲ့သို့ မောင်ဆိုသည်ကလည်း သူမအလိုချင်ဆုံး တွေထဲက တန်ဖိုးရှိဆုံးအရာတစ်ခုပင်ဖြစ်သည်။ မောင့် ကို သူမ ရယူနိုင်ခြင်းက သူမဘဝအတွက် အလိုအပ်ဆုံးအောင်မြင်မှု တစ်ခုကို ရရှိထားသလိုဖြစ်သည်။ ဒါပေမယ့် မောင့် ရဲ့အချစ်သည်သာ သူမ၏ အကြီးမားဆုံး မျှော်လင့်ချက်တစ်ခု ဖြစ်သည်။

++++++++++++++++++++++++

“အထူးခန်းက သူတွေက ဒီအခန်းကို အခန်းပြောင်းလာ မယ်တဲ့…”

“စာတော်တဲ့ သူဌေးတွေက ဘာလို့ဒီအခန်းကို ပြောင်း လာ ရတာလဲ..”

“ဟဲ့… ငါတို့အခန်းမှာလည်း စာတော်တဲ့သူတွေ ရှိပါ တယ်… ပြောရရင် လေပြေတို့လို ပေါ့…”

“ ဒါတော့ဒါပေါ့ အခုပြောင်းလာတဲ့သူတွေက ချမ်းလည်း ချမ်းသာကြတယ်လေ..”

“ရုပ်လည်း ချောကြတယ်ပြောတယ်… ဟီးဟီး… ဟုတ် မဟုတ်ကြည့်ရတာပေါ့…”

“မိန်းမနော် .. နှာဘူးကို ထတယ်…”

အတန်းထဲရှိ မိန်းကလေးများက တီးတိုးတီးတိုး ပြောနေကြခြင်းဖြစ်သည်။ လေပြေ အခန်းထဲသို့ ဝင်လိုက်သည်နှင့် ဝတ်မှုန်က လေပြေနှင့် လွမ်းဝေ အနားသို့ရောက်လာကာ…

“ ဟဲ့ … နင်တို့သိပြီးပြီလား… အထူးတန်းက ကျောင်းသားတွေ ဒီအခန်းကို ပြောင်းလာကြမယ် ဆိုတာလေ..”

ဝတ်မှုန်သည် အတန်းထဲတွင် လေပြေနှင့် လွမ်းဝေတို့၏ တစ်ဦးတည်းသော မိန်းကလေး သူငယ်ချင်းဖြစ်သည်။ လေပြေနှင့် စသိသည်မှာ လွမ်းဝေ ဖြစ်သည်။ လွမ်းဝေက အရင် လေပြေကို လာနှုတ်ဆက်ကာ မိတ်ဖွဲ့ခြင်းကြောင့် သူငယ်ချင်းဖြစ်သွားခြင်း

ဖြစ်သည်။ လေပြေလို ပုံစံနှင့် ဆိုလျှင် သူငယ်ချင်းရဖို့ ဝေးသေးသည်။ တကယ့်တော့ ဝတ်မှုန်ဆိုတာလည်း လေပြေကို ကြိုက်နေတာကြောင့် လွမ်းဝေကို အကူအညီတောင်းရင်း လွမ်းဝေ ကတစ်ဆင့် လေပြေနှင့် ခင်နေကြခြင်းဖြစ်သည်။ သို့ပေမယ့် လေပြေကို အခုအချိန်ထိ သူမ၏ ခံစားချက်ကို ဖွင့်မပြောရသေးပေ...။ အချိန်အခါကောင်းတစ်ခုကို စောင့် နေခြင်း ဆိုလျှင်လည်းမှန်ပေလိမ့်မည်။

“ ဘယ်လိုလုပ်သိမှာလည်း.. အခုမှ ကျောင်းကို ရောက် လာတဲ့ဟာကို ...”

ဟု လွမ်းဝေက ပြောကာ ဝတ်မှုန်၏ နှဖူးကို လက်ဖြင့် လှမ်း တောက်လိုက်သည်...

“ အ... နာတယ်ဟ... နင်ဆိုတာလေ ငါ့နှဖူးကိုဘဲ ခလုတ်တိုက်နေတယ်...”

လေပြေကတော့ သူတို့နှစ်ယောက်ကြားထဲကို ဘာမှ ဝင်မပြောပဲ ... အတန်းထဲသို့ ခြေထောက်ထော့နဲ့ထော့နဲ့ ဖြင့် ဝင်သွားပြီး ခုံ၌ ဝင်ထိုင်လိုက်သည်။

"လေပြေ... နင့်ခြေထောက်က မသက်သာသေး ဘူးလား..."

လေပြေထိုင်နေသည့် ခုံရှေ့ကို ဝင်ထိုင်ကာ ဝတ်မှုန်က မေးလိုက်သည်။

" အင်း... အရမ်းကြီးတော့ မသက်သာသေးဘူး..."

" ဘယ်သက်သာဦးမလဲ ... မနေ့ကတင်... ညဘက် အလုပ်သွားလုပ်လိုက်သေးတယ်လေ...။"

လွမ်းဝေက လေပြေ့ဘေးခုံမှာ ဝင်ထိုင်ရင်း ပြောလိုက်သည်။ ဝတ်မှုန်က မျက်လုံးပြူး မျက်စံပြူးနှင့်

" ဟဲ့... နင့်ခန္ဓာကိုယ်ကို အနားလေးတော့ပေးလေ..."

" ဒီခန္ဓာကိုယ်ကြီးက ခိုင်းဖို့ ရထားတာ မဟုတ်ဘူးလား... ငါတို့က မခိုင်းရင် ဒီကောင်ကြီးက ဘာမှအသုံးမဝင်တဲ့ အရာတစ်ခု ဖြစ်သွားပြီလေ..."

လေပြေ ပြောလိုက်သည့်စကားကို ဝတ်မှုန်က မျက်နှာကြီး ရှုံ့မဲ့ကာ ...

“ ငါတော့ အဲ့လောက်ကြီး မခိုင်းနိုင်ပါဘူး... သနား စရာ...”

“နင်က အချိန်တန် ယောက်ကျားယူမှာပဲ... နင့်မျက်နှာ လေးက လှနေဖို့အရေးကြီးတယ်... ဒီမှာတွေ့လား ငါ့ကောင်ကြီး လေပြေက ဒီလောက်အလုပ်လုပ်တာ တောင် အသားအရည်လေးက မဆိုစလောက် နေလောင် ဒဏ်ရာလေးနဲ့ ဝင်းပြီးကြည့်ကောင်းနေတုန်း...”

လွှမ်းဝေပြောမှ လေပြေကို ဝတ်မှုန်သေသေချာချာ ကြည့်လိုက် သည်။ ဟုတ်ပါရဲ့ ... အသားအရည်က ဝင်းပြီး မျက်ခုံး ကောင်းကောင်း မေးချွန်ချွန်လေးနှင့် ကြည့်လို့ကောင်းနေသည်။

“ဟဲ့ .. လေပြေ... နင့်အသားအရည်က ဘာသုံးလို့ ဒီလို ဝင်းဝါစိုပြေနေရတာလဲ...”

“ ဘာမှမလုပ်ဘူး… ရေသာ များများသောက်… ဝမ်းမှန်အောင်လုပ်.. စိတ်ကို ကြည်အောင် တရားထိုင်…”

“Wow… So amazing… နင်က အလုပ်လည်း လုပ်တယ်… ဘုရားလည်းရှိခိုးတယ်… စာလည်း လုပ်ရတယ်… နားချိန်ရောရှိရဲ့လား…”

“ရှိတာပေါ့ ဝတ်ရည်ရယ်… ငါအိပ်တဲ့ အချိန်လေ…”

“ဟုတ်တယ်.. ငါ့ကောင်ကြီး လေပြေက… အိပ်ချိန် တစ်ခုပဲနားတာ… မအိပ်ခင်ကတော့ အလုပ်ပဲ လုပ်နေတာ.. မေးကြည့်ဦး ငွေတွေက ထားစရာ နေရာရော ရှိသေးလားလို့..”

လွှမ်းဝေ၏ ရွှတ်နောက်နောက် အပြောကို သူဘာမှမပြောပဲ နှုတ်ဆိတ် နေလိုက်သည်။ သူ့အမေမဆုံးခင်က ကင်ဆာ ဖြစ်တာကြောင့် ဆေးကုသစားရိတ် ယူထားတဲ့ အကြွေးတွေကို သူ့လုပ်အားခထဲက ဖဲ့ဖဲ့ပြီးဆပ်နေရတဲ့အတွက် သူ့ဆီမှာ လက်ကျန်ငွေ အပို ဆိုတာလုံးဝရှိမနေပေ…။ ဒါပေမယ့် သူ့အမေကို ဆေးကုလို့ အကြွေးပေးရသည့်အတွက် သူ

ဘယ်တော့မှ နောင်တမရပေ…။ ဒါသူ့အတွက် ကျေးဇူးဆပ်ရသည့် အခွင့်အရေးအဖြစ်ပင် ဖြစ်သည်ဟု သတ်မှတ်ထားခဲ့သည်။ သူ့အမေသည် သူ့၏ အမေအရင်း မဟုတ်ပေမယ့် ငယ်ငယ်လေးကတည်းက ကျွေးမွေးစောင့်ရှောက်လာသည့် ကျေးဇူးရှိသူဖြစ်သည်။

ဝတ်မှုန်လည်း မည်သည့်စကားလုံးကို ရွေးချယ်ပြောရမလဲ စဉ်းစားရင်း တိတ်ဆိတ်သွားခဲ့သည်။ တကယ်ဆို လေပြေခံစားနေရသည့် ဒုက္ခတွေကို သူလည်း မျှခံစားချင်ပေမယ့် ခံစားချက်တွေကို အကောင်းဆုံးဖုံးကွယ်တတ်သည့် လေပြေက သူ့အခက်အခဲတွေကို မည်သူ့ကို မှ အရေးတယူလုပ် ပြောပြမည့်သူမဟုတ်ဘူးဆိုတာကို သူသိသည်။ အဘယ့်ကြောင့်ဆိုသော် သူနှင့် အနီးကပ်ရှိလွန်းသည့် လွမ်းဝေပင် သူ့အကြောင်း သိပ်သိလှသည် မဟုတ်ပေ…။

“ကဲ… ကလေးတို့ ကိုယ့်နေရာကိုယ်ထိုင်ကြရအောင်… အခန်းပြောင်း ကျောင်းသားတွေနဲ့… ဆရာမတို့ မိတ်ဆက် ပေးမယ်..”

အတန်းပိုင်ဆရာမ၏ အသံကြောင့် ဝတ်မှုန်လည်း ကိုယ့်နေရာသို့ ကိုယ်သွားထိုင်လေသည်။ ဝတ်မှုန်ထွက်သွားတော့မှ ဝတ်မှုန်နှင့် ကွယ်နေသည့် အတန်းရှေ့တွင် မတ်တပ်ရပ်နေသော အတန်း ပြောင်း ကျောင်းသားတွေကို တွေ့လိုက်ရသည်။

အတန်းပြောင်း ကျောင်းသားတွေကြား သူ့ကို ကြည့်နေသည့် မျက်ဝန်းတစ်စုံနှင့် လေပြေ... အကြည့်ချင်း ဆုံသွားသည်။

“ဟိုတစ်ယောက်... မင်းကို ကားနဲ့တိုက်မိတဲ့ တစ်ယောက်မဟုတ်လား...”

လွှမ်းဝေတစ်ယောက် မျက်လုံးပြူး မျက်ဆံပြူးနှင့် လေပြေ အနားသို့ ကပ်၍ ပြောလိုက်သည်။ လေပြေဘာမှ ပြန်မဖြေဘဲ... ရှိုင်းကို လှမ်းကြည့်လိုက်သည်။

လေပြေက သူ့ကို ကြည့်နေသည်ကို သိသည်နှင့် ရှိုင်းက လေပြေ့ကို ပြုံးပြလိုက်သည်။ ရှိုင်း၏ အပြုံးကို လစ်လျူရှုကာ လေပြေက တစ်ခြားသူတွေကို လှမ်းကြည့်လိုက်သည်။

“ ချောလိုက်တာ...”

"ချမ်းသာတဲ့ သူတွေဆိုတော့ အသားလေးတွေကဝင်းပြီး ချောလိုက်ကြတာ..."

" ဟုတ်ပ... အလယ်က တစ်ယောက်က အရပ်ကြီး အရှည်ကြီးနဲ့ ကြည့်လို့ကောင်းလိုက်တာ..."

အတန်းထဲရှိမိန်းကလေး တစ်ချို့၏ တီးတိုးသံကို သူကြား လိုက်ရသည်။

ရှိုင်း၏အရပ်က အတန်းရှေ့မတ်တပ်ရပ်နေသည့် လူတွေကြား ထဲတွင် သိသိသာသာ ရှည်ကာ ကြည့်လို့ကောင်းနေသည်။ လေပြေနှင့် ဆုံတုန်းကလည်း လေပြေအရပ်နှင့် ဆိုလျှင် မော့ကြည့်နေရသည်မဟုတ်လား..။

လွယ်အိတ်ထဲက စာအုပ်တစ်အုပ်ကို ထုတ်ကာ လေပြေ ဖတ်နေလိုက်သည်။ ဆရာမကတော့ ကျောင်းပြောင်းကျောင်းသား တစ်ယောက်ချင်းဆီနှင့် အမည်တွေကို တွဲကာ မိတ်ဆက် ပေးလို့နေသည်။

" နောက်လည်း ကို့ကို ကူညီပါဦး..."

ဟု လေပြေ့လည်ပင်းနာကို ကပ်ကာ ပြောလိုက်သည် အသံကြောင့် လေပြေကုတ်ပိုးလေးတွန့်သွားသည်။ ထိုသူ၏ ဝင်သက်ထွက်သက်တွေက လေပြေ၏ လည်ပင်းကိုလာရောက် ထိတွေ့လို့နေသည်။ ထိုသူ၏ အသံကို နောက်သို့ မလှည့်ကြည့်ပါဘဲနှင့် ဘယ်သူလဲဆိုတာ လေပြေ သိနေသည်။

လေပြေ မျက်မှောင်ကြုံ့ကာ နောက်သို့ လှည့်ကြည့်လိုက်သည်။ ရှိုင်းက ပြုံးလျက်လေပြေ့ကို ကြည့်ကာ

“ နောက်လည်း တွေ့ရဦးမှာ ဆိုတော့ ကူညီပါဦးနော...”

ဟု ထပ်ပြောလိုက်သည်။

“တစ်ခြားခုံအလွတ်တွေ အများကြီးရှိပါရဲ့နဲ့... ဘာလို့ ဒီနေရာမှ လာထိုင်နေရတာလဲ...”

“ ဘာဖြစ်လို့လဲ မင်းအနားမှာ ထိုင်ချင်လို့လေ...”

လေပြေထပ်ပြောရန် ပါးစပ်ပြင်ပြီးတော့မှ မပြောပဲ ရှေ့သို့ ပြန်လှည့်လိုက်သည်။ သူတို့လို ချမ်းသာတဲ့သူတွေက သူတို့ စိတ်ထင်သလို ထင်တိုင်းလုပ်နေကြတာကို လေပြေ မကြိုက်

ပေ...။ အဲ့လိုလူတွေကိုလည်း လေပြေအနေနဲ့ အပေါင်းအသင်း လုပ်မည်မဟုတ်ပေ...။

++++++++++++++++++++++

“ မ’ ရောက်လာပြီလား... ထိုင်လေမ’....”

အခန်းထဲသို့ဝင်လာသည့် မေသရဖူကို နွေဦးပြောလိုက်ပြီး...။

“ ဒီကိစ္စက ကိုယ်တို့ပြီးမှ ပြောမယ်လေ..”

လုပ်လက်စ အလုပ်တွေကို လက်စသတ်ကာ လက်ထောက် ဆရာဝန်မလေးကို ပြောလိုက်သည်။

“ ဟုတ်ကဲ့ပါဆရာ...ပြောမယ်ဆို ခေါ်လိုက်ပါ...”

လက်ထောက် ဆရာဝန်မလေးကလည်း နားလည်သလို ဟန်ပြကာ ထွက်သွားလေသည်။

“ မောင် အခုတလော အလုပ်တွေ အရမ်းရှုပ်နေတာလား...”

“ အရမ်းတော့မဟုတ်ပါဘူး… ဆေးရုံတစ်ခုလုံးက ကိုယ့်ခေါင်းပေါ်မှာဆိုတော့ …”

“မောင်က အရမ်းအလုပ်ကြိုးစားတာပဲနော်… နားချိန်လေးလဲ ထားပါဦး… ဘာလဲ မ’ အတွက် ကြိုးစားနေတာလား…”

သူမ၏ အမေးကို နွေဦးက နှုတ်ဆိတ်လို့နေသည်။ သူမကလည်း အဲ့ဒါကို မကြိုက်တာဖြစ်သည်။ မောင့်ကိုသာ သူမ ပိုင်ဆိုင်ထားသော်လည်း မောင့်နှလုံးသားကို တော့ သူမ မရရှိနိုင်သေးပါ။ ဒါပေမယ့် မ’ ကြိုးစားမှာ ပါမောင်… တစ်နေ့နေ့ မောင့်နှလုံးသားက မဆီကို ဦးညွှတ်လာစေရပါ့မယ်…။

“ မ’ တစ်ခုခု စားပြီးပြီလား… ကိုယ်ဘာမှ မစားရသေးလို့ မနက်စာ သွားစားကြရအောင်လေ..”

“အင်း… သွားရအောင်လေ… ဆိုင်ကောင်းကောင်းတစ်ဆိုင်ကို မ’ တွေ့ထားတယ်… မောင်လည်း ကြိုက်မယ်လို့ ထင်ပါတယ်…”

သူမ မနက်စာ စားလာခဲ့ပေမယ့်... နွေဦးနှင့် အတူတူ ရှိနေချင်တာကြောင့် သူမမငြင်းနိုင်ခဲ့ပါ..၊

“ မ’ ကြိုက်တဲ့ ဆိုင်သွားလေ.... မောင်က အဆင်ပြေပါတယ်...”

“အိုခေ... သွားရအောင်လေ...”

++++++++++++++++++++++

အတန်းချိန်ပြီးသွားသည့်အခါ ထော့နဲ့ ထော့နဲ့ လမ်းလျှောက်ပြန်နေသော လေပြေဘေးသို့ ရှိုင်း ရုတ်တရက် ရောက်လာကာ...

“ မင်းခြေထောက်က မကောင်းသေးဘူးလား...”

“ အရင်ကလောက် မဆိုးတော့ပါဘူး...”

ရှိုင်း၏ အမေးကို လေပြေ ခပ်ပြတ်ပြတ်ဖြေကာ သွားနေသည့် ခြေလှမ်းတွေကို သွက်သွက်လေး လှမ်းလိုက်သည်။ ခြေထောက်က နာနေတာကြောင့် ခရီးက ထင်သလောက် မတွင်ပေ....။

နောက်က လိုက်လာသည့် ရှိုင်းက လေပြေလက်ကို ဆွဲကာ

“ ကိုယ်နဲ့ ဆေးခန်းကို လိုက်ခဲ့ပါ...”

ရှိုင်း၏ လက်ကို လေပြေ ခါချလိုက်ပြီး

“ မင်းဘာဖြစ်လို့... ငါ့ကိစ္စတွေ ဝင်ပါနေရတာလဲ...”

“ မင်းကိစ္စကို ဝင်ပါချင်လို့ ပါနေတယ်ထင်လား... ဒီခြေထောက် ထိခိုက်ထားတာက ငါ့ကြောင့်လေ...”

“ ကျွန်တော့်ကို ဆေးခန်းလိုက်ပို့ပြီးပြီမဟုတ်လား.. အဲ့နေ့ကတည်းက မင်း တာဝန်ကျေသွားပြီလေ... နောက်ပိုင်း ဖြစ်တာတွေက ကျွန်တော့ ဘာသာ မဆင်မခြင် နေတာတွေကြောင့် ဖြစ်တာလေ...”

“ ဘယ်သူပြောတာလဲ...”

“ဘာကိုလဲ....”

ရှိုင်း၏ အမေးကို လေပြေ ကြောင် အ’အ လေး ပြန်မေးလိုက်သည်

“ ကိုယ့်တာဝန်က အဲ့ဒီနေ့မှာ ပြီးသွားပြီလို့လေ...”

“ အဲ့ဒါက ဒီလိုပဲလေ... မတော်တဆဖြစ်ကြတယ်... လျှော်ကြေးပေးတယ်... ပြီးပြီမဟုတ်ဘူးလား...”

“ မပြီးဘူးလေ... ဘာလို့လဲဆိုတော့ မင်းက သူများတွေနဲ့ မတူဘူး... မင်းက...”

ရှိုင်း၏ စကားတွေက လမ်းတစ်ဝက်တွင် ရပ်တန့်လို့သွားသည်။ သူက ရှိုင်းအတွက် ဘယ်လိုလူမျိုးဖြစ်နေလို့လဲ... လေပြေ မတွေးတက်ပေ...။ သိလည်း မသိချင်ပါ...။

“ ကျွန်တော်က ဘာမို့လို့လဲ...”

“ မင်းက ... အခု ငါ့ အတန်းတူ သူငယ်ချင်းဖြစ်နေပြီလဲ... အဲ့ဒီတော့ မင်းလိုက်မှာလား... ကိုက ပွေ့ချီခေါ် ရမလား...”

ရှိုင်း၏ ပုံစံက တကယ့် တစ်ဇွတ်ထိုး တစ်ဇောက်ကန်း လုပ်တော့မည့် ပုံစံပင်ဖြစ်သည်။ ထိုအကြောင်းကိုလည်း သူစားသောက်ဆိုင် ဖြစ်စဉ်မှာ သိလိုက်ရသည် မဟုတ်လား...။

"မင်း ငါ့ကိုထိတာနဲ့.. ဆေးခန်းကို ငါလိုက်မှာ မဟုတ်တော့ဘူးနော်..."

"ဒါဆို အခုလိုက်မယ်ပေါ့... အိုခေ မင်းအသားကို ငါမထိဘူး၊ ဒါပေမယ့်... မင်းကိုယ်မင်း မလဲအောင်တော့ ဂရုစိုက်၊ အဲ့ဒါဆို ငါမင်းကို မထိဘူး... အိုခေ..."

"မင်းရှေ့ကသွား ငါ နောက်က လိုက်လာခဲ့မယ်..."

" အိုခေ... ငါ့နောက် သုံးပေ အကွာက လိုက်နော်... တစ်ခုခု ဖြစ်ရင် ငါလှမ်းဖမ်းလို့ရအောင်..."

"အပိုတွေပြောမနေနဲ့... ငါအဲ့ဒီလောက်ထိ အားမနည်းသေးဘူး..."

ရှိုင်း သူ့နောက်က ထော့နဲ့ ထော့နဲ့ဖြင့် လိုက်လာသည့် လေပြေကို မသိမသာ လှည့်လှည့်ကြည့်နေရသည်။ သူ့စိတ်ထဲ တစ်ခါမှ မဖြစ်ဘူးသည့် စိုးရိမ်ပူပန်မှု တစ်ခုက လေပြေနှင့် တွေ့မှ ဝင်ရောက်လာခဲ့သည်။ ထိုစိုးရိမ်စိတ်က မည်သည့် အတိုင်း အတာလောက်ထိ တာသွားလိမ့်မည်လဲဆိုတာတော့ သူမသိပေ...။

သူတို့နှစ်ယောက် သွားနေသည်ကို အတန်းက ကောင်မလေး များက ကြည့်ကာ တီးတိုးပြောနေကြသည်။

“တက်... ကားပေါ်ကို ...”

ရှိုင်းက ရှေ့ခန်းကားတံခါးကို ဖွင့်ကာ လေပြေကို တက်ခိုင်း လိုက်သည်။ လေပြေက ခေါင်းခါကာ

“ရတယ်... ငါနောက်မှာ ထိုင်မယ်...”

“မင်းက နောက်မှာ ထိုင်ရအောင်... ငါက မင်းရဲ့ ဒရိုင်ဘာလား...”

“ရှေ့မှာ လာထိုင်...”

သူ့ပုံစံက မည်သို့မှ ပြောရမည့်သူမဟုတ်မှန်း လေပြေသိတာ ကြောင့် ထပ်ပြီးမပြောတော့ဘဲ ရှိုင်းကားတံခါးဖွင့်ထားပေးသည့် နေရာသို့ဝင်ထိုင်လိုက်သည်။

ဆေးရုံသို့ရောက်သည်နှင့် ဒေါက်တာနွေဦးက လေပြေ ခြေထောက်ကို အသေအချာကြည့်ပေးသည်။ ဒေါက်တာနွေဦး

ငုံလိုက်သည့် အခါ.. မထင်မှတ်ထားသည့် အရာတစ်ခုက အင်္ကျီရင်ဘက်ဟထားသည့် နေရာမှ ထွက်ကျလာသည်။ ရွှေဆွဲပြားလေး.... ထူးထူးခြားခြား... “နွေဦး” ဟု ဖောင်းကြွ စာလုံးတွေနှင့် ရေးထိုးထားသည့် ဆွဲပြားလေး...။ ထိုဆွဲပြားလေးကို မြင်လိုက်သည့်အခါ လေပြေ... သူ့ရဲ့လည်ပင်းကို ပြန်စမ်းမိလိုက်သည်။ သူပျောက်သွားသည့် လည်ဆွဲလေးနှင့် တူနေသည်။ သူ့လည်ဆွဲလေးမှာက လေပြေဟု ရေးထိုးထားသည်။



# အပိုင်း ၄

"သား...လေပြေ... ဒီလည်ဆွဲလေးက သားနဲ့အတူ ပါလာတာ...ဒါကြောင့် သားနာမည်ကိုလည်း လေပြေလို့ မှည့်ထားပေးတာ၊ တစ်ချိန်ချိန်ကြရင် ဒီလည်ဆွဲလေးက သားရဲ့ မိဘအရင်းတွေအတွက် သက်သေတစ်ခု ဖြစ်လာနိုင်တယ်... မပျောက်စေနဲ့...သားရဲ့မိဘအရင်းတွေကို မရှာပေးနိုင်တာ အမေ့ကို ခွင့်လွှတ်ပါ..."

ထိုဆွဲပြားလေးကို မြင်လိုက်သည်နှင့် မွေးစားမိခင်၏ အမှာစကားကို လေပြေပြန်လည်ကြားယောင်နေမိသည်။ ဘာလို့များ လည်ဆွဲက လာတူနေရတာပါလိမ့်...။ ဖောင်းကြွစာလုံးဖြင့် ထွင်းထားသည့် စာလုံးသာလျှင် ကွဲပြားနေပြီး ကျန်တာတွေအားလုံးက တူညီနေသည်။

" အ..."

လေပြေ၏ အတွေးတို့က နာကြင်မှုကြောင့် အဝေးသို့ လွင့်စင်သွားကြသည်။

“အဲ့ဒီလိုဆိုရင်...နာလား... ဆရာမေးနေတာ မဖြေတော့ မနာဘူးထင်ပြီး လှုပ်လိုက်တာ Sorry..”

သူဘယ်လောက်တောင် အတွေးလွန်နေသည်မသိ ဒေါက်တာ မေးနေတာတောင် မကြားမိလိုက်ပေ..။

“အဆစ်က ပြန်ရောင်နေတာ... ခြေထောက်ကို အားပြုပြီးလုပ်ရတဲ့ အလုပ်တွေ မလုပ်နဲ့ဦး... နားနား နေနေလေးနေပေးပါ...”

“ဟုတ်ဆရာ...”

“ဒီတစ်ခါတော့ ခြေထောက်ကို ကျောက်ပတ်တီး ကိုင်ပေးလိုက်မယ်... မဟုတ်ရင်.. ဒီထက်ပိုဆိုး လိမ့်မယ်..”

‘ကျောက်ပတ်တီးကိုင်ရင်တော့ သွားပါပြီ.. ငါလှုပ်လှုပ် ရှားရှားဘာမှ သိပ်လုပ်လို့မရတော့ဘူးပဲ...’

လေပြေတွေးရင်း မျက်နှာလေးက မှိုင်တွေသွားသည်။ လေပြေ၏ မျက်နှာ အရိပ်အကဲကို ကြည့်နေသည့် ရှိုင်းက လေပြေ မျက်နှာလေး ညှိုးသွားသည်ကို သတိထားလိုက်မိသည်။

"ဒါက ဆရာရဲ့ ကဒ်လေးယူထားလိုက်၊ ကဒ်နောက်မှာ ရေးထားတာက ဆရာ့ရဲ့ ကိုယ်ရေးကိုယ်တာဖုန်းနံပါတ်၊ တစ်ခုခုဆိုဖုန်းဆက်လို့ရတယ်..."

"အကိုကလည်း... တစ်ခုခုဆို ကျွန်တော်ခေါ်လာမှာပါ အဲ့လောက်ထိ မလိုပါဘူး.."

"ညီရဲ့လူနာဆိုတာ VIP လူနာဘဲလေ၊ ငါ့အတွက် ဒီလောက်တော့လုပ်ပေးနိုင်ပါတယ်.."

နွေဦးကမ်းပေးလာသည့် လိပ်စာကဒ်လေးကို လေပြေလှမ်းယူလိုက်ကာ အိကျီအပြင်ကို ထွက်ကျနေသည့် လည်ဆွဲလေးကို တစ်ချက် လှမ်းကြည့်လိုက်သည်။

ခြေထောက်ကို ကျောက်ပတ်တီး ကိုင်ပေးလိုက်တာကြောင့် ရှိုင်းက လေပြေကို ကားရပ်ထားရာနေရာသို့ တွဲပြီး လျှောက်လာသည်။ ဒီတစ်ခါတော့ လေပြေတားလို့မရပေ..။

"ဒေါက်တာ ပြောထားတယ်နော်... နားနားနေနေ နေရမယ်တဲ့... ခြေထောက်ကို အားပြုလုပ်ရမယ့် အလုပ်တွေ မလုပ်ရဘူးလို့ ပြောလိုက်တယ်.."

"ငါသိပါတယ်၊ ဘာလို့ အဲ့ဒါကို ထပ်ခါတလဲလဲ ပြောနေတာလဲ.."

"ထပ်ခါတလဲလဲပြောနေရတာက၊ မင်းစားသောက်ဆိုင် အလုပ်ကို ပြန်သွားလို့မရဘူးလို့ပြောတာ..."

"စားသောက်ဆိုင်အလုပ်က မင်းလုပ်လို့ အလုပ်ပြုတ် သွားပြီလေ... ငါက ဘယ်လိုလုပ်သွားလို့ရမှာလည်း... ဒီအတောအတွင်း အလုပ်လည်းရှာရဦးမယ်..."

စားသောက်ဆိုင်က အလုပ်ပြုတ်သွားပြီဆိုသည်နှင့် ရှိုင်းနှုတ်ခမ်းတွေက ကွေးညွတ်ကာ ပြုံးသွားသည်။ အဲ့ဒီနေရာမှာ လေပြေကို

အလုပ်မလုပ်စေချင်မိ။ ဘာကြောင့်လဲမသိ လေပြေနဲ့ပတ်သတ်လာလျှင် အသေးစိတ် ဂရုစိုက်နေမိသည်။ ကျောင်းမှာ အတန်းပြောင်းတာကလည်း သူ့ရဲ့ အကြံပဲ မဟုတ်လား။

“ ဒေါက်တာက နားနားနေနေ နေရမယ်လို့ ပြောထားတယ်လေ..”

“နားနားနေနေ နေရအောင်… ငါက မင်းတို့လို သူဌေးမဟုတ်ဘူးလေ… ငါ့မှာ နေစားရိတ်စားစရိတ်အတွက် အလုပ်လုပ်ရမယ်…”

“အဲ့အတွက် မပူနဲ့… ကိုမင်းကို ပေးမယ်…”

“ငါက မင်းဆီကယူမယ်လို့ ဘယ်လိုအတွေးမျိုးနဲ့ ထင်လိုက်တာလဲ…”

“မင်းမယူဘူးဆိုတာ သိပြီးသား… ဒါကြောင့်လည်း… ကိုကမင်းကို တိုက်ရိုက်ပေးမယ်လို့ ဘာလို့ထင်ရတာလဲ…”

“မင်းဘာတွေလုပ်နေတာလဲ…”

လေပြေ၏ အမေးကို မျက်ခုံးတွန့်ပြရုံသာ တွန့်ပြလိုက်သည်။

အဆောင်ရှေ့သို့ရောက်သည်နှင့် လွမ်းဝေက ထွက်လို့ ကြိုနေသည်။

“သူတစ်ခုခုဆို ငါ့ကို အကြောင်းကြားပေးပါ…”

ရှိုင်းပြောလိုက်သည်နှင့်လွမ်းဝေက ပြာပြာသလဲခေါင်းညိတ်ကာ

“ရတယ်… ရတယ်… သူလိုအပ်တာ အကုန်ငါလုပ်ပေးလိုက်မယ်… ထိုင်နေရာကတောင် မထစေရဘူး…”

လွမ်းဝေ ပြောလိုက်သောစကားကြောင့် လေပြေမျက်လုံးပြူးသွားသည်။ လွမ်းဝေကို သူဘယ်လိုအကွက်တွေနဲ့ ချုပ်လိုက်လို့ လွမ်းဝေက သူ့အလိုကျ လုပ်ပေးမယ်လို့ ပြောလိုက် ရတာလဲ။

“ရတယ်လွမ်းဝေ မလိုဘူး၊ ငါက သူများလုပ်ပေးတာ အခန့်သင့် နေတတ်တဲ့လူမျိုးမဟုတ်ဘူး….”

"မင်းအကြောင်းကို ငါသိပါတယ်ကွာ၊ ဒါပေမယ့်လည်း မင်းခြေထောက်မကောင်းတဲ့ အတောအတွင်း၊ အေးအေး ဆေးဆေးနေသင့်တယ်…"

"ဒါဆို ကိုသွားတော့မယ်၊ တစ်ခုခု လိုအပ်တာရှိရင် လွမ်းဝေကို ပြော၊ တစ်ခြားဘာမှ လှုပ်လှုပ်ရှားရှားလုပ်ဖို့ မစဉ်းစားနဲ့၊ အပေါ့အပါးသွားချိန်က လွဲလို့ပေါ့… ဟဲ..ဟဲ…"

"မင်းဘာဖြစ်ချင်နေတာလဲ… "

"ကို…ဖြစ်ချင်တာကလား၊…"

သူက စဉ်းစားသလို ဟန်ပြုလုပ်ပြီး

"အခုတော့မရှိသေးဘူး၊ ဒါကြောင့် သွားလိုက်ဦးမယ် နော်…"

ပြောပြီးသည်နှင့် ရှိုင်းကားကို အမြန်မောင်းထွက်လာခဲ့သည်။ သူ့နှလုံးသားက သိသိသာသာ ပေါက်ကွဲတော့မတတ် ခုန်လို့နေသည်။ 'မင်းဘာဖြစ်ချင်နေတာလဲ..' ဟုမေးလိုက်သည့်

လေပြေပုံစံလေးက ဘာကြောင့်များ သူ့နှလုံးသားကို လှုပ်ခတ်စေတာလဲ သူမသိပေ...။ ကြိမ်းသေတာတစ်ခုကတော့ ဒါက တစ်စုံတစ်ယောက်အပေါ် သူ့ရဲ့ ပထမဦးဆုံး ရင်ခုန်ခြင်းဖြစ်သည်။

++++++++++++++++++++++++++++

"အမေ... သက်သာရဲ့လား..."

အိပ်ရာပေါ်လဲနေသည့် အမေဖြစ်သူ၏ လက်ကို နွေဦး ဖွဖွကလေး ကိုင်လိုက်သည်။

"သား... သားလေး... လေပြေကို ရှာတွေ့ပြီလား... သားလေးကို ရှာတွေ့ပြီလား..."

စိတ်ထင်ရာ ဂယောင်ဂတမ်းပြောနေသည့် အသက် ၆၀ ကျော် အမျိုးသမီးတစ်ယောက်။ ထိုအမျိုးသမီ နှုတ်မှလည်း လေပြေ ဆိုသည့် အမည်ကို တတွတ်တွတ်ရွတ်လို့နေသည်။ လေပြေ ပျောက်သွားပြီးကတည်းက လေပြေ့စိတ်နဲ့ဘဲ သူမစိတ်ဒဏ်ရာ အကြီးအကျယ်ရခဲ့သည်။

သူမနှုတ်က လေပြေဟုပြောလိုက်တော့မှ ရှိုင်းနှင့်အတူ ဆေးရုံသို့လာပြသည့် လေပြေကို အတွေးထဲမြင်ယောင်လာသည်။ အခုအချိန်လောက်ဆို လေပြေလည်း ထိုကောင်လေး အရွယ်လောက်ပင် ရှိနေဦးမည်။ အမည်ကလည်း ဘာလို့တူနေရတာလဲ…။ သူခေါင်းကို ခါယမ်းလိုက်သည်။ သူ့ညီလေး လေပြေက မရှိတော့တာ ကြာခဲ့ပြီလေ။ အတည်မပြုနိုင်သော်လည်း လေပြေ ပျောက်သည့်နေ့တွင် ထိုနေရာ၌ အလောင်းကိုလည်း ရှာတွေ့ခဲ့ပြီးပြီမဟုတ်လား။ လေပြေသေဆုံးသွားပြီကို လက်မခံနိုင်သည့် အမေကတော့ အိပ်ရာထဲ ဘုံးဘုံးလဲကာ အခုအချိန်ထိ လေပြေကို မျှော်နေဆဲပင်ဖြစ်သည်။ လူပျောက်ကြေငြာ ထည့်လိုက်တော့လည်း လူလိမ်တွေသာ ရောက်လာခဲ့ကြသည်။

"ရှာတွေ့တော့မှာပါ အမေရဲ့၊ အမေ့ရဲ့ကျန်းမာရေးကို သာဂရုစိုက်ပေးပါ… သားမတွေ့တွေ့အောင် ပြန်ရှာပေးပါ့မယ်…"

နွေဦး သူမရဲ့လက်ကလေးတွေကို ပွတ်ကာ အားပေးလိုက်သည်။ သူမ၏ စိတ်ဒဏ်ရာကို သက်သာအောင်သာ အားပေးလိုက်ရသည်

လေပြေကို ရှာတွေ့ဖို့ မဖြစ်နိုင်လောက်တော့ဘူးဆိုတာ သူသိသည်။

“အမေ… ဒီဆေးလေး သောက်လိုက်နော်… အမေ့ကျန်းမာရေး ကောင်းလာမှ လေပြေကို တွေ့လို့ရမှာပေါ့..”

မိခင်ဖြစ်သူကို ပွေ့ကာ ထိုင်စေပြီး လက်ထဲရှိဆေးနှင့် ရေကို ကမ်းပေလိုက်သည်။

“အမေ ကျန်းမာမှ ညီလေးကို တွေ့လို့ရမှာပေါ့… အခုလို အမေက နေမကောင်းဖြစ်နေရင် ညီလေးရှိရင်တောင် ညီလေးက ဘယ်စိတ်ကောင်းပါ့မလဲ…”

“အင်းဟုတ်တယ်… ဟုတ်တယ်… သားလေးက စိတ်မကောင်း ဖြစ်နေမှာပေါ့… ပေးပေး.. အမေဆေးသောက်မယ်…”

နွေဦးလက်ထဲက ဆေးနှင့်ရေကို သူမက လှမ်းယူလိုက်ကာ တစ်ကျိုက်တည်းမော့သောက်လိုက်သည်။

“ဟုတ်တယ်… အမေကျန်းမာနေမှဖြစ်မယ်…”

ဟု သူမ နှုတ်မှလည်း တတွတ်တွတ်ရွတ်လို့နေသည်။ ထို့နောက်တွင်တော့ ဆေးအရှိန်ကြောင့် သူမသည် တဖြည်းဖြည်း အိပ်ပျော်လို့သွားသည်။ သူမအိပ်ပျော်သွားတော့မှ နွေဦး သူမ၏ နဖူးလေးကို ဖွဖွလေးနမ်းပြီး အခန်းထဲက ထွက်လာခဲ့တော့သည်။

“ဟူး…”

နွေဦး သက်ပြင်းရှည်ကြီးတစ်ခုကို ချလိုက်ပြီး ဆိုဖာပေါ်သို့ ခြေပစ်လက်ပစ်ထိုင်ချလိုက်သည် ။ ဒီလိုနှင့် သူမသည် လုံးပါး ပါးတော့မည့် အခြေအနေဖြစ်လို့နေသည်။ မရှိတော့သည့် သွားလေသူ သားငယ် လေပြေကို သတိရနေရင်းမှ သူမသည် ရောဂါက တစ်ဖြည်းဖြည်းနှင့် ပိုဆိုးလို့လာသည်။ ဆေးပညာတွေ ထွန်းကားနေသော်လည်း သေဆုံးသွားသည့် သူကို အသက်ပြန် သွင်းရန်လည်း နွေဦးတကယ်နိုင်သည့် ကိစ္စမဟုတ်ပေ။ မိခင်ဖြစ် သူ၏ အခြေအနေကို ရင်နာနာနဲ့သာ ကြည့်နေခဲ့ရသည်။

“တီ…တီ..တီ….”

အိတ်ကပ်ထဲမှ တုန်ခါနေသည့် ဖုန်းလေးကို ထုတ်ကိုင်လိုက်သည်။

"ဟယ်လို... ပြောလေ'မ...."

"မောင်... အိမ်ပြန်ရောက်ပြီလား သိချင်လို့ ဖုန်းဆက်လိုက်တာ..."

"အင်း... အခုဘဲရောက်တယ်... အမေ့ကို ဆေးတိုက်ပြီးလို့ ခဏနားနေတာ..."

"နှောင့်ယှက်သလိုဖြစ်သွားရင် မတောင်းပန်ပါတယ်... ဒါဆို မောင်နားတော့လေ..."

"ရပါတယ် မ'... အရေးကြီးကိစ္စရှိလို့လားပြောလေ..."

"အရေးကြီး ကိစ္စတော့မဟုတ်ပါဘူး... အခုတလော မောင်လေး... မောင့်ရဲ့ဆေးရုံကို ခဏခဏ လာတယ် ဆိုလို့လေ... ဘာများဖြစ်လို့လဲ..."

"ရှိုင်းက ဘာမှမဖြစ်ပါဘူး... သူ့သူငယ်ချင်း တစ်ယောက်ရဲ့ ခြေထောက်က ဒဏ်ရာကို လာပြပေးတာပါ..."

ပြောနေရင်းနွေဦး၏ အတွေးထဲ လေပြေ၏ ပုံစံလေးကို တွေးမိသွားသည်။ လေပြေ့ပုံစံလေးက ဘုစပ်စပ်နှင့် တကယ့်ကို ကလေးတစ်ယောက် အတိုင်းပင်ဖြစ်သည်။ ရှိုင်းလိုစိတ်မရှည် ဒေါသထွက်လွယ်သည့် သူတစ်ယောက် နှင့် သူငယ်ချင်း မည်သို့ သူငယ်ချင်းဖြစ်လာလဲ သူစဉ်းစား၍ မရပေ...။

"ဟုတ်လား.... မသိပါဘူး... မ'က မောင်လေးများတစ်ခုခု ဖြစ်လို့လားလို့ စိုးရိမ်သွားတာ... သူက တစ်ခုခုဆို ဒီက တစ်ယောက်တည်းသော အမကိုလည်း ဘာမှ မပြော ဘူးလေ... မောင်' ရေချိုးတော့မယ်ဆို.. ချိုးတော့နော်... မ' ဖုန်းချလိုက်တော့မယ်..."

"အင်းပါ... Good Night ပါမ..."

" Good Night နော်မောင်..."

ဖုန်းကို ဘေးနားသို့ ပစ်ချလိုက်ပြီး ဆိုဖာနောက်မှီသို့ခေါင်းကို ခပ်ပြင်းပြင်းလေးထိကပ်လိုက်သည်။ ထို့နောက် လက်နှစ်ဖက်နှင့် ခေါင်းကို ဖိကာ မျက်လုံးများကို မှိတ်ကာ မှိန်းနေလိုက်သည်။

မျက်လုံးပိတ်လိုက်သည်နှင့် အတွေးထဲပေါ်လာသည်က လေပြေဆိုသည့်ကောင်လေး၏ ပုံရိပ်ဖြစ်သည်။

“ဟူး…”

ကနဲ သက်ပြင်းရှည်ကြီးတစ်ခုကို လေးလေးပင်ပင် မှုတ်ထုတ်လိုက်သည်။

ထိုပင့်သက်ရှည်က နွေဦးအတွေးထဲ ထင်ဟပ်နေသည့် ပုံရိပ်လေးကိုတော့ အဝေးကို ခေါ်သွားနိုင်စွမ်းမရှိပေ။

……………………………………

# အပိုင်း ၅

မနက်မိုးလင်းကတည်းက လွှမ်းဝေတစ်ယောက် လေပြွေကို အရိပ်တကြည့်ကြည့်နှင့် လိုအပ်တာမှန်သမျှ အကုန်လိုက်လုပ်ပေးလို့နေသည်။ မနက်စာအတွက်လည်း စားပွဲခုံပေါ်တွင် အသင့်တင်ထားပြီးဖြစ်သည်။ သွားတိုက်တံတွင်လည်း သွားတိုက်ဆေးတို့ထားပြီး ဘေးတွင် ရေခွက်က အဆင်သင့် ချထားသည်။ ဒါကလည်း ဟိုကောင် ရှိုင်းရဲ့ စနက်တွေဆိုတာ မပြောပြလည်း သူခန့်မှန်းသိရှိနိုင်သည်။

"တော်ရုံလောက်ဘဲလုပ်ပါ လွှမ်းဝေရာ... ငါ့လက်တွေက အကောင်းကြီး ရှိနေပါသေးတယ်... မျက်နှာသစ် သွားတိုက် တာလောက်ကတော့ ငါလည်း လုပ်နိုင်ပါတယ်..."

"မင်းလုပ်နိုင်ပေမယ့်... လုပ်ခွင့်မရှိတဲ့ ကိစ္စတွေ ဖြစ်နေတယ်ဆိုတာ နားမလည်ဘူးလား..."

"ဟ...ဟား... ရှိုင်းက မင်းကို ဘယ်လောက်ပေးထားလို့လဲ..."

လေပြေ့အမေးကို ပြုံးဖြီးဖြီးနှင့် လွမ်းဝေက

“အဆောင်ခ ၃ လစာ နဲ့ မင်းနဲ့ငါ့အတွက် သုံးဖို့ ငွေနည်းနည်းပေးထားတယ်..”

“ဘယ်လောက်တောင် ပေးထားတာလဲ...”

လွမ်းဝေမရဲတရဲဖြင့် လက်သုံး၅ချောင်းထောင်ပြလိုက်သည်။

“ငါးသောင်းလား...”

လေပြေက စိတ်မှန်းဖြင့်ပြောလိုက်သည်။ လွမ်းဝေက ခေါင်းကို ခါကာ

“ဟင့်အင်း...”

“ဒါဆို ၅သိန်းလား...”

ဒီတစ်ခါ လေပြေ၏အမေးကို ခေါင်းညိတ်ကာဖြေလိုက်ပြီး

"သူက နောက်ထပ်လိုရင်လည်း ထပ်ပေးမယ်တဲ့... သူ့ငွေးနဲ့ သူငယ်ချင်းဖြစ်တာ ဘယ်လောက်တောင် ကောင်းလိုက်လဲ... ဟဲဟဲ"

"အဲ့ဒီငွေတွေ ဘယ်မှာလဲ..."

"ငါ့ သေတ္တာထဲမှာ သိမ်းထားတယ်..."

"ငါ့ကို အကုန်ပြန်ပေး..."

"ဘာလဲ... မင်းက တစ်ခါတည်းသုံးတော့မလို့လား..."

"မင်းလျှောမရှည်နဲ့ ပေးမှာသာ ပေးစမ်းပါကွာ..."

လွမ်းဝေ တစ်ယောက် မပေးချင် ပေးချင်နှင့် သေတ္တာလေးထဲက ပိုက်ဆံ အထပ်လိုက်ကို လေပြွေခဲ့ဆီ လှမ်းပေးလိုက်သည်။

"မင်း... ဘာလုပ်မလို့လဲ..."

"ဘာလုပ်ရမှာလဲ...သူ့ကို ပြန်ပေးမလို့ပေါ့ကွ... ငါ့ဘဝက သူများပေးစာ ကမ်းစာနဲ့ စားသောက်နေရအောင်

သူတောင်းစားလဲ မဟုတ်ဘူး.... အလုပ်လုပ်နိုင်သေး တယ်...”

ဟု လေပြေက ဒေါသထွက်သည့် အသံဖြင့် လွမ်းဝေကို ပြောလိုက်သည်။

“သူက မင်းခြေထောက်ထိခိုက်ထားလို့ ပေးတာပါကွာ...”

“ခြေထောက်က ဆေးခန်းပြပေးရင် တော်ပြီလေကွာ... အခုလောက်ထိ ငွေတွေ ဖြုန်းစရာလိုလို့လား...”

“မင်းက အလုပ်လည်း ထွက်ထားရတော့ အားနာ လို့နေမှာပေါ့...”

လွမ်းဝေပြောသည့် စကားလုံးများကို မည်သို့မျှ ခွန့်တုံ့မပြန်တော့ပဲ ထိုငွေထုတ်ကို လွယ်အိတ်ထဲသို့ ထည့်လိုက်သည်။

“တီ... တီ...တီ...”

သူတို့စကားပြေနေတုန်းတွင် အိမ်ရှေ့သို့ ရှိုင်း၏ ကားရောက် လာကာ ဟွန်းသံပေးလိုက်သည်။

ကားဟွန်းသံကြားသည်နှင့် လေပြေသည် လွယ်အိတ်လေးကို ကောက်လွယ်လိုက်ကာ အဆောင်ရှေ့သို့ ထွက်လာခဲ့သည်။ နောက်မှ လွမ်းဝေက ထပ်ချက်မကွာ လိုက်လာခဲ့သည်။ လေပြေတစ်ယောက် ရှိုင်းထိုင်နေသည့် ကားခေါင်းခန်း ပြတင်းပေါက်ကို လက်ဖြင့် ခေါက်လိုက်သည်။ ကျောင်း ယူနီဖောင်း အဖြူရောင် နှင့် ပုဆိုး နက်ပြာလေးကို သပ်သပ်ရပ်ရပ် ဝတ်ဆင်ထားသည့်ရှိုင်းက ကားမှန်တံခါးကို ဖွင့်လိုက်ပြီး လေပြေ ကို ပြုံးကာ

“ခင်ဗျားလေးနေရာက ဟိုဘက်ထိုင်ခုံလေ...”

ဟုဆိုကာ သူ့ဘေးနားက ခုံကိုလက်ညှိုးထိုးကာ ပြောလိုက်သည်။

“ငါ မင်းကားနဲ့လိုက်ဖို့ လာတာမဟုတ်ဘူး... မင်းငွေတွေ ပြန်ပေးဖို့လာခဲ့တာ... ပြီးတော့ မင်းက ငါ့အတွက် အဲ့လောက်ထိ တာဝန်ယူနေဖို့ မလိုပါဘူး...”

ဟုဆိုကာ အိတ်ထဲက ငွေကို ထုတ်ကာ ရှိုင်းကို ပေးလိုက်သည်။ လေပြေပေးသည့် ငွေတွေကို ရှိုင်းက မယူသေးဘဲ...။

"အဲ့ဒီ ငွေတွေက မင်းကို ပေးထားတာမဟုတ်ဘူးလေ... ငါလွမ်းဝေကို ပေးထားတာ... မင်းက ငါ့ကို ပြန်လာ ပေးစရာမလိုဘူး..."

"ရှင်း... မင်း... ငါ့ဆီက ဘာလိုချင်လို့လဲ..."

"အဟက်... ငါမင်းဆီက ဘာလိုချင်ရမှာလဲ... မင်းကရော ငါ့ကို ဘာပေးနိုင်လို့လဲ..."

"ဒီငွေတွေက မင်းလွမ်းဝေကို ပေးထားတယ်ဆိုပေမယ့်... ငါ့အတွက် သုံးဖို့ ပေးထားတာတွေ မဟုတ်လား.... ငါပြောပြမယ်... ငါဘယ်သူ့ဆီကမှ အလကား မလိုချင်ဘူး... အဲ့ဒီတော့ ဒီငွေတွေ မင်းပြန်ယူသွားပါ..."

"အလကားမလိုချင်တဲ့သူတစ်ယောက်ကို အလကား ပေးတယ်လို့ ဘယ်သူပြောလဲ... မင်းခြေထောက် ကောင်းသွားရင်... ငါ့ ဆီမှာအလုပ်တစ်ခုတော့ လာလုပ် လို့ရတယ်မလား.."

"ဘယ်လိုအလုပ်မျိုးလဲ..."

"GYM နဲ့ပတ်သက်ပြီး မင်းဘာသိတာရှိလဲ…"

ရှိုင်း၏ အမေးကို လေပြေခေါင်းခါလိုက်သည်။ တကယ်တမ်းလည်း GYM ဆိုသောနေရာတွေက သူ့အတွက် အလှမ်းဝေးလွန်းလှတယ်မဟုတ်ပါလား။

"သန့်ရှင်းရေးလောက်တော့ လုပ်တတ်တယ်မလား…"

သန့်ရှင်းရေး လောက်ကတော့ လေပြေမလုပ်တတ်စရာ ဘာအကြောင်းမှမရှိတာကြောင့် ခေါင်းကို အသာညိတ်ပြလိုက်သည်။

"ကောင်းပြီလေ… ဒီငွေတွေအတွက် ဘာဘဲလုပ်ရလုပ်ရ ငါအလုပ်ပြန်လုပ်ပေးမှာပါ…"

လေပြေပြောလိုက်သည့် စကားကို ရှိုင်းက ပြုံးကာ

"ကဲအဲ့ဒါဆိုရင် ငွေကို သိမ်းပြီး ကားပေါ်တက်လို့ ရပြီလား…"

"ငါမင်းရဲ့ကားကို စီးမှာ မဟုတ်ဘူး… ငါ့ဘာသာ စက်ဘီး စီးသွားမှာ…"

"စက်ဘီး စီးရင် ခြေထောက်နာတာက သက်သာမှာ မဟုတ်ဘူးနော်... ဘာလဲ ကားပေါ်ကို ပွေ့ချီပြီးတင်တာ စောင့်နေတာလား..."

"မင်း...၊မင်း... ဘာစကားပြောတာလဲ..."

"တော်ပါတော့ကွာ မင်းတို့နှစ်ယောက် စကားများနေတာနဲ့ ဒီနေ့ ကျောင်းကို ရောက်ပါ့ဦးမလား.... လေပြေလည်း ကားပေါ်တက်တော့...ငါလည်းတက်တော့မယ်..."

လေပြေ၏ အနောက်တွင် တစ်ချိန်လုံးနားထောင်နေသည့် လွမ်းဝေက ကြားဖြတ်ဝင်ပြောကာ လေပြေကို ကား၏ တစ်ဖက်ခြမ်းသို့ခေါ်သွားကာ ကားတံခါးဖွင့်ပေးပြီး ထိုခိုင်းလိုက်သည်။ သူကိုယ်တိုင်လည်း နောက်ခန်းတံခါးဖွင့် ကာ ဝင်ထိုင်လိုက်သည်။

ဘေးနားတွင် ထိုင်နေသည့် လေပြေကို ကြည့်ကာ ရှိုင်း မျက်နှာပေါ်တွင် သိသာသည့် အပြုံးတစ်ခုက ပေါ်လာခဲ့ပြီး ကားလေးကို အဆောင်ရှေ့မှ ညင်သာစွာ မောင်းထွက်လာခဲ့တော့သည်။

"မင်းအခုတလော ကျောင်းတက်မှန်နေပါလား ရှိုင်း... ငါတို့ဆီလဲမလာဘူးနော်..."

အတန်းထဲသို့ ရောက်သည်နှင့် ရှိုင်းသူငယ်ချင်းတွေထဲမှ တစ်ယောက်က ရှိုင်းပုခုံးကို လာဖက်ကာပြောလိုက်သည်။

ရှိုင်းက လွယ်အိတ်ကို ခုံပေါ်သို့ချကာ အရှေ့ခုံတွင်ထိုင်နေသည့် လေပြေကို တစ်ချက်ကြည့်ရင်း...

"ငါ့အတွက် ကျောင်းမှာစိတ်ဝင်စားစရာ ရှိနေပြီလေ... မင်းကရော.. မင်းခုံမှာ မင်းမထိုင်ဘဲနဲ့ ဘာလို့ဒီကို လာရတာလည်း..."

"မင်းက အခုကတည်းက ငါတို့ကို သူစိမ်းဆန်နေပြီလား.... ပြောပါဦး မင်းစိတ်ဝင်စားနေတဲ့ ကောင်မလေးက... ဒီအခန်းထဲကလား..."

သူ့ပုခုံးကို ဖက်ထားသည့် သူငယ်ချင်းဖြစ်သူ၏ လက်ကို ကိုင်ကာ အောက်သို့ဖယ်ချလိုက်ရင်း...

“မင်းက သိတော့ဘာလုပ်မလို့လဲ... မဆိုင်တာတွေ စိတ်မဝင်စားစမ်းဘာနဲ့...”

“ငါတို့က မင်းဒီဘက်ကို ပြောင်းလာမယ်ဆိုလို့ လိုက်လာခဲ့တာနော် သားကြီး... နှင်းဆီတောင်မှ ပြောင်းလာလို့မရလို့နော် မဟုတ်ရင် သူပါရောက်လာမှာ...”

“ငါကတော့ သူမ ပါလာခြင်း မပါလာခြင်းဂရုစိုက်မှာ မဟုတ်ဘူး... မင်းလည်း ကိုယ့်နေရာကို ပြန်တော့ ငါလုပ်စရာလေးရှိတယ်...”

ရှိုင်းတစ်ယောက် သူ့သူငယ်ချင်းတွေကို ပြောရင်း လေပြွေကို ကြည့်လိုက်သည့်အခါ လေပြေသည် ဝတ်မှုန်ဆိုသော ကောင်မလေးနှင့် စကားပြောကာ ပြုံးရယ်နေသည်ကို တွေ့လိုက်ရသည်။ သူငယ်ချင်းဖြစ်သူတွေ ထွက်သွားသည်နှင့် နောက်ကနေ လေပြွေပုခုံးလေးကို လက်နှစ်ဖက်နှင့် ကိုင်ကာကိုယ်ကို ကိုင်းလိုက်ရင်း...

“ဘာတွေများ ပြောနေကြလို့ ရယ်နေကြတာလဲ... ကျွန်တော်လည်း ပါဝင်လို့ရမလား...”

ရှိုင်းနဲ့ဆိုလျှင် အမြဲဂျစ်ကန်ကန်နှင့် ဘုကလန့်ပြောနေသမျှ အခုကြ သူမဟုတ်သလို ရယ်မောနေသည်ကို ရှိုင်းအနည်းငယ် မကျေမနပ် ဖြစ်မိသည်။

“ရတာပေါ့... ကျွန်မက ဝတ်မှုန်ပါ... လေပြွေကို ခင်သလိုခင်လို့ရပါတယ်...”

သွက်သွက်လက်လက်ရှိသည့် ဝတ်မှုန်က ရှိုင်းကို လှမ်းပြော လိုက်သည်။ လေပြေပင်တားချိန်မရလိုက်ပေ...။

အခွင့်အရေးရသည်နှင့် ရှိုင်းသည် လေပြေထိုင်နေသည့်ခုံသို့ လာကာ လေပြွေဘေးနားတွင် လေပြွေ ပုခုံးကို ဖက်ကာ ထိုင်လိုက်သည်။

“မင်း... ဘယ်လိုဖြစ်လို့ ရောက်လာပြန်တာလဲ...”

လေပြေက မျက်လုံးပြူးကာ ကြည့်ရင်း မေးလိုက်သည်။

ရှိုင်းက လေပြွေကို ဖက်ထားတာကြောင့် လေပြွေမျက်နှာသည် ရှိုင်းမျက်နှာနှင့် လွန်စွာနီးကပ်သွားသည်။ ရှိုင်းသည် လေပြေ၏ ပန်းရောင်သန်းနေသည့် နှုတ်ခမ်းလေးကို ကြည့်မိကာ ရန်ခုန်

သံတို့သည် စည်းချက်ညီစွာ ထွက်ပေါ်လာခဲ့သည်။ တစ်ကိုယ်လုံး ပူထူလာပြီး လေပြေကို ဖက်ထားသည့် လက်ကို ရုတ်လိုက်သည်။

"မင်းကလည်း ပုခုံးလေး ဖက်တာကို လာတွန့်တို နေတယ်..."

"အေးလေ... ခင်လို့ဖက်တဲ့ဟာကို..."

ဟု ဘေးနားတွင်ထိုင်နေသည့် လွမ်းဝေကပါ ဝင်ပြောလိုက်သည်။

"ငါမကြိုက်ဘူး... အဲ့လို ဖက်တာကို မကြိုက်ဘူး... ငါသန့်စင်ခန်း ခဏသွားလိုက်ဦးမယ်...."

လေပြေပြောပြီးသည်နှင့် ပုခုံးပေါ်မှ ရှိုင်း၏လက်ကို ပုတ်ထုတ်ကာ အတန်းထဲမှ ပြေးထွက်သွားတော့သည်။

အိမ်သာထဲသို့ရောက်သည့်အခါ လေပြေသည် သူ့ရင်ဘက်ကို ပြန်စမ်း ကြည့်လိုက်သည်။

"ဘာလို့... ဘာလို့များ... ငါ့နှလုံးခုန်တာက မြန်နေ ရတာလဲ..."

ထို့နောက် ဘေစင်ရှိ မှန်ထဲသို့ကြည့်ကာ...

“ငါ့မျက်နှာကလည်း ဘာလို့နီနေရတာလဲ...”

လေပြေ တစ်ယောက်တည်း ပြောရင်း ရှိုင်း၏ နီးကပ်လာသည့် မျက်နှာက အမြင်အာရုံထဲ ပေါ်လာပြန်သည်။

ထိုအခါ နှလုံးခုန်သံတွေက မြန်လာပြန်သည်။

“ဟူး...”

လေပြေသည် သက်ပြင်းမောလေးကို မှုတ်ထုတ်ကာ... မျက်နှာကို သစ်လိုက်သည်။

လေပြေအခန်းထဲသို့ ပြန်မဝင်လာခင် အခန်းဝမှနေ၍ ရှိုင်းရှိရာသို့ လှမ်းကြည့်လိုက်သည်။ ရှိုင်းက သူ့ခုံသို့ ပြန်ထိုင်ကာ စာအုပ် တစ်အုပ်ကို ဖတ်နေပြီဖြစ်သည်။ လေပြေလည်း ခပ်သွက် သွက်လေး ကိုယ့်နေရာသို့ဝင်ထိုင်လိုက်သည်။ လေပြေ၏ မသိစိတ်က သူ့နောက်ကနေ ရှိုင်းက လှမ်းကြည့်နေသည်ကို ခံစား မိနေသည်။ သို့ပေမယ့်လည်း သူနောက်သို့လှည့်မကြည့်ရဲပေ။

သူ့အတွက် အသုံးမဝင်သည့် ထူးခြားသည့် ခံစားချက်မျိုးကို သူမခံစားချင်တာကြောင့်ဖြစ်သည်။

စာအုပ်ကို ကြည့်နေရင်း ရှေ့မှာ ထိုင်နေသည့် လေပြေ့ကို ရှိုင်း မျက်လွှာလေးပင့်ပြီး လှမ်းကြည့်လိုက်သည်။ ခုဏာတုန်းက အရမ်း နီးကပ်နေသည့် လေပြေ့မျက်နှာလေးကို သူနမ်းပစ်လိုက်ချင် မိသည်။ သူ့ခံစားချက်တွေက ထုတ်ပြဖို့အတွက် အရမ်းခက်ခဲ လွန်းသည်။ တကယ်လို့သာ သူ့ခံစားချက်အတိုင်း လုပ်ဆောင် လိုက်မည်ဆိုလျှင် လေပြေနှင့် လက်ရှိဆက်ဆံရေးလေးပင် ပျက်သွားရနိုင်ဖွယ်ရှိသည်။ သို့ပေမယ့်... ရှိုင်း... သူ၏ နှလုံးသား ကိုတော့ ညာလို့မရချေ...။

.......................................................

ကျောင်းဝန်းအတွင်းသို့ နွေဦး၏ ကားလေးကို ချိုးကွေ့ လိုက်သည်။ ကျောင်ဝန်းအတွင်းတွင် ရောင်စုံအိကျီတွေနှင့် ကျောင်းသား ကျောင်းသူတွေဖြင့် စည်ကားလို့နေသည်။ ဘာကြောင့် ရယ်မှန်းမသိ နွေဦး၏ အတွေးထဲတွင် လေပြေ

ဆိုသည့် ကောင်လေးက စိုးမိုးထားတာကြောင့် လေပြေရှိရာ ကျောင်းသို့ လေပြေ့ကို တွေ့ရန်နိုးနိုးဖြင့် လာခဲ့ခြင်းဖြစ်သည်။

ကျောင်းထဲသို့ ရောက်ပြီးမှ ယခုကဲ့သို့ ကျောင်းသို့ရောက်လာခြင်းက နွေဦး မှားသွားပြီလားဟု တွေးမိကာ သူ့ကားကို ကျောင်းဝန်းအတွင်းမှ ပြန်ထွက်မည့်အချိန်တွင် ကျောင်းဆောင်တစ်ခုထဲမှ ထွက်လာသည့် လေပြေ့ကို လှမ်းတွေ့လိုက်တာကြောင့် လေပြေရှိရာသို့ ကားလေးကို မောင်းထွက်လိုက်သည်။ လေပြေ့အနားသို့ရောက်ခါနီးတွင် လေပြေ့အနောက်မှ ကပ်ပါလာသည့် ရှိုင်းကိုတွေ့လိုက်ရသည့်အခါ သူ့ကားကို လေပြေတို့အနားသို့ မရောက်မီရပ်တန့်လိုက်သည်။ နွေဦး၏ မြင်ကွင်းရှေ့တွင် ရှိုင်းက လေပြေ့ပုခုံးကို ဖက်ကာ လမ်းလျှောက်သွားသည်ကို မြင်လိုက်ရသည့် အခါ နွေဦး၏ ရင်ထဲတွင် တစ်ခုခုကို ဆုံးရှုံးလိုက်ရသကဲ့သို့ ခံစားလိုက်ရသည်။ ရှိုင်းဘေးနားက လေပြေ့ကို တစ်နေရာရာသို့ ဆွဲခေါ်သွားချင်သည့် စိတ်တွေဖြစ်ပေါ်လို့လာသည်။

"ဝူး...."

လေပြေနှင့် ရှိုင်းတို့ရှိရာသို့ ဦးတည်ကာ ကား၏ လီဘာကို နင်းလိုက်သည်။ နွေဦး၏ ကားသည် ရှိုင်းနှင့် လေပြေတို့ရှိရာသို့ ..........



# အပိုင်း ၆

မနက် ကတည်းက နွေဦး သူ့အတွေးတွေထဲသို့ စိုးမိုးလာနေသည့် လေပြေဆိုသည့်ကောင်လေး၏ ပုံရိပ်တွေက သူ့အလုပ်ကိုပါ နှောင့်ယှက်လို့နေတာကြောင့် လူနာပါးသည့်အချိန်တွင် ဆေးရုံမှ ထွက်လာခဲ့တော့သည်။

စိတ်ထဲပေါက်ပေါက်နှင့် လျှောက်မောင်းနေရာမှ သူ့ကားလေးက ရှိုင်းတို့တက်နေသည့် တက္ကသိုလ်ရှေ့သို့ရောက်လို့လာသည်။ ဒီကျောင်းထဲတွင် လေပြေရှိမည်ဆိုတာလည်း သူသိထားသည် မဟုတ်လား။ ကျောင်းဝန်းအတွင်းသို့ နွေဦး၏ ကားလေးကို ချိုးကွေ့လိုက်သည်။ ကျောင်းဝန်းအတွင်းတွင် ရောင်စုံအိကျႌ တွေနှင့် ကျောင်းသားကျောင်းသူတွေဖြင့် စည်ကားလို့နေသည်။

ကျောင်းထဲသို့ ရောက်ပြီးမှ ယခုကဲ့သို့ ကျောင်းသို့ရောက်လာခြင်းက နွေဦး မှားသွားပြီလားဟု တွေးမိကာ သူ့ကားကို ကျောင်းဝန်းအတွင်းမှ ပြန်ထွက်မည့်အချိန်တွင် ကျောင်းဆောင် တစ်ခုထဲမှ ထွက်လာသည့် လေပြေ့ကို လှမ်းတွေ့လိုက်တာကြောင့် လေပြေရှိရာသို့ ကားလေးကိုမောင်းထွက်လိုက်သည်။

လေပြေ့အနားသို့ရောက်ခါနီးတွင် လေပြေ့အနောက်မှ ကပ်ပါလာသည့် ရှိုင်းကိုတွေ့လိုက်ရသည့်အခါ သူ့ကားကို လေပြေတို့အနားသို့ မရောက်မီရပ်တန့်လိုက်သည်။ နွေဦး၏ မြင်ခွင်းရှေ့တွင် ရှိုင်းက လေပြေ့ပုခုံးကို ဖက်ကာ လမ်းလျှောက်သွားသည်ကို မြင်လိုက်ရသည့်အခါ နွေဦး၏ ရင်ထဲတွင် တစ်ခုခုကို ဆုံးရှုံးလိုက်ရသကဲ့သို့ ခံစားလိုက်ရသည်။ ရှိုင်းဘေးနားက လေပြေ့ကို တစ်နေရာရာသို့ ဆွဲခေါ်သွားချင်သည့် စိတ်တွေ ဖြစ်ပေါ်လို့လာသည်။

“ဝူး….”

လေပြေနှင့် ရှိုင်းတို့ရှိရာသို့ ဦးတည်ကာ ကား၏ လီဗာကို နင်းလိုက်သည်။ နွေဦး၏ ကားသည် ရှိုင်းနှင့် လေပြေတို့ရှိရာသို့ အရှိန်နှင့် ရောက်ရှိလို့သွားသည်။

“ကျွီ…”

ကားဘရိန်အုပ်သံနှင့်အတူ ကားအရှေ့မှန်သည် ပွင့်လာခဲ့သည်။

“ဟာ…ဆရာ…”

“အကို ဘယ်လိုလုပ် ဒီရောက်လာတာလဲ… ကျောင်းထဲမှာ ကားကိုအရှိန်နဲ့မောင်းလို့မရဘူးနော်…”

ရှိုင်းက လေပြွေ ပုခုံးပေါ်လက်တင်ထားရာက ခေါင်းကို ငုံ့ကာ ပြောလိုက်သည်။

“အရှိန်မပြင်းပါဘူး… မင်းတို့ကို တွေ့လို့ ရုတ်တရက် ဘရိတ်အုပ်လိုက်တာ ကြောင့်ပါ… ဒါနဲ့ ပြန်တော့ မလို့လား…”

“အင်း… ဟုတ်တယ် ပြန်တော့မှာ… အကိုရော ဘယ်ကို လာတာလဲ…”

ရှိုင်းက မဆိုင်းမတွ ပြန်မေးလိုက်သည်။

“အမ်… အင်း အကိုက ဒီက အသိသူငယ်ချင်း တစ်ယောက်ဆီလာရင်း… လမ်းကြုံလို့ဝင်လာတာ…”

နွေဦး၏ စကားတွေက ရှေ့နောက်မညီတာကြောင့် ရှိုင်း မျက်မှောင်ကြုံ့ကာ ကြည့်လိုက်သည်။

"ဒါနဲ့.... လေပြေက ဒီနေ့ ကျောက်ပတ်တီး ဖြည်ရမှာ မဟုတ်လား... အကိုနဲ့ တစ်ခါတည်း လိုက်ခဲ့မလား..."

နွေဦးက လေပြေဘက်သို့လှည့်ကာ စကားလမ်းကြောင်း လွှဲလိုက်သည်။

"အိုးဟိုး... ဘယ်လို ကြောင့် ဆေးရုံအုပ်ကိုယ်တိုင်က ဒီလို ခြေထောက်နာတဲ့ လူနာအကြောင်းတွေက အစ စိတ်ဝင်စားနေရတာလဲ..."

"လေပြေက ရှိုင်းရဲ့သူငယ်ချင်းမဟုတ်လား... ဒါကြောင့် သတိထားမိနေတာထင်တယ်... ရှိုင်းက ပြန်မယ်ဆိုရင် ပြန်တော့လေ... အကိုလေပြေ့ကို ဆေးရုံခေါ်သွား လိုက်ပါ့မယ်..."

"လူနာက အုပ်ထိန်းသူမပါဘဲ ဘယ်တုန်းက ဆေးရုံး သွားလို့လည်း...။"

"မင်းက... ဘယ်တုန်းက ငါ့အုပ်ထိန်းသူ ဖြစ်သွား ရတာလဲ..."

ရှိုင်းးကိုကြည့်ကာ လေပြေပြောလိုက်သည်။

“မင်းခြေထောက် ဒဏ်ရာရတာလည်း ငါ့ကြောင့်ဖြစ်တာလေ... မင်းမှာ မိဘတွေမှ မရှိတော့တာ အဲ့ဒါကြောင့် ငါက မင်းရဲ့ အုပ်ထိန်းသူဘဲပေါ့...”

ရှိုင်း၏ စကားကြောင့် ဝမ်းနည်းသလိုဖြစ်ကာ လေပြေ ခေတ္တမျှ တွေဝေသွားသည်။ မိဘတွေမရှိတော့တာကြောင့် သူတစ်ကိုယ်တည်း ရပ်တည်နေခဲ့တာ ကြာပြီမဟုတလား...။

“မလိုပါဘူး... ငါ့ဘာသာ ဆရာနဲ့ လိုက်သွားမယ်...”

“ကဲပါ ရှိုင်းရာ လေပြေကို ဒီတိုင်းလွှတ်ပေးလိုက်ပါ...”

ကြားထဲက လွမ်းဝေက ဝင်ပြောလိုက်သည်။ မကျေမနပ်ဖြင့် သွားဆိုသောသဘောနှင့် လေပြေ့ ပုခုံးပေါ်က လက်ကို အောက်သို့ ချပေးလိုက်သည်။

လေပြေကားပေါ်သို့ရောက်သည်နှင့် ရှိုင်းကို နှုတ်ဦးနှုတ်ဆက်ကာ မောင်းထွက်လာခဲ့တော့သည်။

နွေဦးတို့ကား ထွက်သွားသည်နှင့် ရှိုင်းက လွမ်းဝေ ဘက်သို့ လှည့်ကာ

“မင်း… လေပြွေကို သေချာစောင့်ကြည့်ပေးဦးနော်…”

“ငါစောင့်ကြည့်ပေးနေပါတယ်စိတ်ချပါ…”

“သူ့ တစ်ခုခု ဖြစ်ရင် မင်းနဲ့ ငါတွေ့မယ်…”

“ငါက ငါ့ အဖေနဲ့ အမေကို မကြောက်ကဘူး… မင်းကိုကြောက်နေရတယ်…”

“သူ့ တစ်ခုခု ဖြစ်မှာ စိုးလို့ပါ…”

“ငါကရော…”

“ပြန်ကြရအောင်လေ…”

“ငါ့ကို လိုက်မပို့တော့ဘူးလား…”

“ငါ့မှာ အလုပ်လေးရှိသေးလို့ ဒီနေ့တော့ လိုင်းကားစီး သွားလိုက်နော်…”

ရှိုင်းကို မျက်စောင်းထိုးကာ လွမ်းဝေထွက်သွားတော့သည်။

..............................

“ခြေထောက်က နာနေသေးလား...”

ကားပြတင်းကနေ အပြင်ကိုကြည့်၍ လိုက်လာသော လွမ်းဝေကို နွေဦး မေးလိုက်သည်။

“မနာတော့ပါဘူးဆရာ... ကျောက်ပတ်တီးနဲ့ဆိုတော့ နည်းနည်းနေရထိုင်ရ ခက်တာဘဲရှိတော့တယ်...”

“ကျောက်ပတ်တီဖြည်ပြီးရင်လည်း တစ်ပတ်လောက် လှုပ်လှုပ်ရှားရှားမလုပ်နဲ့ဦး...”

“လှုပ်လှုပ်ရှားရှားမလုပ်လို့ မရတော့ဘူးဆရာ ကျတော် အလုပ်မလုပ်ရတာ အတော်ကြာသွားပြီ...”

“ဒါပေမယ့်လည်း အရမ်းလှုပ်ရှားရတဲ့ အလုပ်တွေတော့ မလုပ်ပါနဲ့ဦး...”

“ဟုတ်ကဲ့ပါဆရာ....”

“ဒါနဲ့ ဘာစားပြီးပြီလဲ…”

“အခုမှ ကျောင်းလွှတ်တာဆိုတော့ ဘာမှတော့မစားရသေးဘူး…”

“ကျတော်လည်း ဘာမှမစားရသေးတော့ ဒီနားကဆိုင်တစ်ဆိုင်ဆိုင်မှာ တစ်ခုခု သွားစားရအောင်…”

“ရပါတယ်… ကျတော်ကားထဲမှာ နေခဲ့ပါ့မယ်…”

“ဘယ်ဟုတ်ပါ့မလဲ… ကျတော်ခေါ်လာတာဆိုတော့ ကျတော် ကျွေးပါ့မယ်…”

“မလိုပါဘူးဆရာရယ် အားနာစရာကြီး…”

“အားနာစရာမလိုပါဘူး… ညီလေးရှိုင်းရဲ့ သူငယ်ချင်းဆိုတော့ အကိုညီလေးဘဲပေါ့…”

“ဟုတ်ကဲ့…”

လေပြေမငြင်းတော့ဘဲ နွေဦးခေါ်ရာနောက်သို့ လိုက်လာခဲ့တော့သည်။ ကားလေးသည် အဆောက်အဦးကြီးရှေ့သို့ ရပ်လိုက်သည်။

ကားရပ်လိုက်သည်နှင့် အဆောက်အဦးရှေ့ ရပ်နေသည့် လူနှစ်ဦးက ကားတံခါးကို လာဖွင့်ပေးသည်။ လေပြေလည်း ကားပေါ်က ဆင်းလိုက်သည်။ ကျောက်ပတ်တီး မဖြည်ရသေးတာကြောင့် ခြေထောက်က ထော့နဲ့နဲ့ ဖြစ်လို့နေသည်။ ဒါကြောင့် နွေဦးက လက်ကိုတွဲကာ ထိန်းလျှောက်ပေးလိုက်သည်။

"ရပါတယ်ဆရာ... ကျတော် လမ်းလျှောက်နိုင်ပါတယ်..."

"အားမနာပါနဲ့... ဒီလောက်က အပန်းမကြီးပါဘူး... မတော်လို့ ချော်လဲမှဖြင့် တစ်ခုခုဖြစ်ရင် ကျတော့်မှာ တာဝန်အပြည့်ရှိပါတယ်..."

လေပြေဘာမှ ထပ်ပြီး မတုံ့ပြန်မိတော့။ နွေဦး၏ စကားတွေက သူ့အတွက် လိုက်နာရမည်ဟု အသိတရား တစ်ခုရိုက်သွင်းထားသလို လိုက်နာနေမိသည်။

စားပွဲဝိုင်းတစ်ခုသို့အရောက် နွေဦးက လေပြေထိုင်ရန်အတွက် ထိုင်ခုံကို ဆွဲပေးလိုက်သည်။ လေပြေက အလိုက်သင့်ကလေး ထိုခုံတွင်ထိုင်လိုက်သည်။

အဆောက်အဦးကြီးက တော်ဝင်ခန်းနားလွန်းလှသည်။ မီးဆိုင်း အပြင်အဆင် တွေကလည်း အဆောက်အဦး၏ ခန်းနားမှုကြီးကို ပိုမိုအသက်ဝင်စေသည်။ ဒီလိုနေရာတွေသည် သူ့အတွက် ဘယ်သောအခါမှ အိမ်မက်ပင်မမက်ဘူးခဲ့သော နေရာဖြစ်သည်။

“ဘာစားချင်လဲ ကြိုက်တာမှာလေ…”

Menu စာရွက်ကို လေပြွေဆီကမ်းပေးရင်း နွေဦးပြောလိုက်သည်။

“ကျတော် ဒီက အစားအစာတွေနဲ့ မရင်းနှီးလို့ ဆရာကဘဲ မှာပေးပါ..။”

“သြော်ဟုတ်ကဲ့… ဒါဆို ကျတော် လေပြေကြိုက်လောက်တဲ့ စားကောင်းတာလေးတွေ မှာလိုက်မယ်နော်…”

“ရပါတယ်… ကျတော့်အတွက် မစဉ်းစားပါနဲ့ ဆရာ ကြိုက်တာကို မှာပါ…”

“အဲ့ဒါဆို အဆင်ပြေလောက်မယ် ထင်တာလေးတွေဘဲ မှာလိုက်တော့မယ်နော်..”

လေပြေ ခေါင်းကိုသာညိတ်ပြလိုက်သည်။ စားပွဲဝိုင်းပေါ်မှာ ရှိနေသည့် ဘဲလ်ခလုတ်လေးကို နွေဦး နှိပ်လိုက်သည်။ ခဏနေတော့ စားပွဲထိုးလေး ရောက်လို့လာသည်။ နွေဦးသည် မီနူးစာရွက်ထဲက အမည်တစ်ချို့ကို စားပွဲထိုးလေးကို ပြောပြလိုက်သည်။ စာပွဲထိုးလေးက နွေဦးပြောသမျှ မှတ်ကာ ထွက်သွားသည်။ လေပြေလည်း မည်သည့် စားစရာမှ မလာခင် လာချသည့် ရေကို သာသောက်လိုက်သည်။

"စပ်စုတယ်လို့ မထင်စေချင်ဘူး… အကို သိချင်တာလေး မေးလို့ရမလား.."

"ဟုတ်ရပါတယ်…"

"ညီက မိဘတွေမရှိတော့ဘူးလား…"

"ဟုတ်ကဲ့ မရှိတော့ပါဘူး… အဖေကတော့ အမေ့ထက်အရင်ဆုံးသွားတာပါ…"

“တစ်ခြား ဆွေမျိုးသားချင်းတွေရော မရှိဘူးလား… ဆောရီးနော်… ကို အရမ်းစပ်စုသလို ဖြစ်နေမလား မသိဘူး…”

“ရပါတယ်ဆရာ… ကျတော့်မှာ တစ်ခြား ဆွေမျိုးတွေ မရှိတော့ပါဘူး… အဲ့ဒါကြောင့်လည်း အမေဆုံးပြီးတာနဲ့ ကိုယ့်တိုးတက်ရာ တိုးတက်ကြောင်းအတွက် ဒီမြို့ကို ရောက်လာခဲ့တာပါ…။”

“ရှိုင်းနဲ့ကရော ဘယ်လိုသိတာလဲ..”

“ဆရာ့ ဆေးခန်းကို လာတဲ့နေ့က စသိတာပါ… သူ့ကားနဲ့ ဝင်တိုက်မိမလို ဖြစ်ပြီးတော့လေ…”

“ကိုက သိကြတာ ကြာပြီလို့တောင်ထင်နေတာ… ရှိုင်းက သူ့ ငယ်သူငယ်ချင်းတွေကိုတော့ ညီ့လောက်ဂရုမစိုက်လို့လေ… ဒါနဲ့ ကို့ကို ဆရာလို့ မခေါ်ပါနဲ့တော့ ရှိုင်းခေါ်သလိုဘဲ အကိုလို့ ခေါ်လို့ရပါတယ်.။”

“တကယ်ခေါ်လို့ရတာလားဆရာ…”

"ရတာပေါ့... ကို့မှာလည်း ညီလေးမရှိဘူးဆိုတော့ ညီလေးတစ်ယောက် ကောက်ရသလိုပေါ့ မဟုတ်ဘူးလား....၊ တွေ့တာ မကြာသေးပေမယ့်... လေပြွေကို ကိုညီလေးလို ခင်မိတာတော့အမှန်ဘဲ..."

"ကျတော့အတွက်ကတော့ အဆင်ပြေပါတယ်... ဒါပေမယ့် ကျတော်လို ဘာမဟုတ်တဲ့ လူတစ်ယောက်ကြောင့်နဲ့ သူများတွေအမြင်မှာ ဆရာ့အတွက် မကောင်းမှာ စိတ်ပူတယ်..."

"ဘာစိတ်ပူစရာလိုလဲ... ကိုတို့က မဟုတ်တာ လုပ်နေတာမှ မဟုတ်တာ..."

နွေဦးပြောလိုက်သည့် စကားကြောင့် လေပြွေမျက်နှာလေးတွင် ရှက်သွေးလေးများပင် ဖျာသွားရသည်။ ဒါကို သတိထားမိသည့် နွေဦးက

"ကိုပြောတာ တစ်ခြားတစ်ဘောမဟုတ်ဘူးနော်... တစ်ခြားလူတွေရဲ့ သဘောထားကို ဂရုစိုက်စရာ မလိုဘူးလို့ပြောတာပါ..."

"ဟုတ်ကဲ့ပါ… ဒါဆို ကျတော်အကိုလို့ခေါ်မယ်နော်… ဆရာ့လို အကိုမျိုးရတာ ကျတော့်အတွက်တော့ ဝမ်းသာစရာပါဘဲ…"

သူတို့ စကားပြောနေသည့်အချိန်တွင် စားပွဲထိုးလေးက စားစရာတွေ လာပို့တာကြောင့် စကားစပျက်သွားကြသည်။ နွေဦးမှာထားသည့် စားစရာတွေသည် လေပြွေအတွက် တစ်ခါမှ မစားဘူးတာကြောင့် စားရတာ အခက်တွေ့လို့နေသည်။ အထူးသဖြင့် ခေါသုံးရသည့် အစားအသောက်များကို ပိုဆိုးသည်။ လေပြေမစားတတ်သည်ကို သတိထားမိသည့် နွေဦးသည် လေပြွေခုံနားသို့ ပြောင်းထိုင်ကာ အသားများကို ခေါနှင့် စားလို့ရသည့် အပိုင်းကလေးတွေဖြစ်အောင် ဖြတ်ပေးလိုက်သည်။ သူ့တို့နှစ်ယောက် စားနေကြသည်ကို စားပွဲတစ်နေရာမှ စောင့်ကြည့်နေသူတစ်ယောက် ရှိနေခဲ့သည်။ ထိုသူသည် ရှိုင်၏ အမ မေသရဖူ ပင်ဖြစ်သည်။ မေသရဖူသည် အလုပ် Partner ဖြင့် အတူတူလာခြင်းဖြစ်သည်။ တိုက်တိုက်ဆိုင်ဆိုင် သူတို့နှင့် ဒီနေရာတွင် လာဆုံရသည်။ သူတို့နှစ်ယောက်က သူမကို

သတိမထားမိသော်လည်း မေသရဖူသည် သူတို့ စဝင်လာကတည်းက စောင့်ကြည့်နေခြင်းဖြစ်သည်။

နွေဦးနှင့် လေပြေတို့ စားသောက်ပြီး နောက်ထိုနေရာက ထွက်လာခဲ့ကြသည်။

“ကျောက်ပတ်တီး ဖြည်ရအောင် ဆေးရုံကို သွားကြရအောင်….”

“ဟုတ်ကဲ့ အကို…”

လေပြေက အကိုဟု ခေါ်လိုက်သည်နှင့် နွေဦး သဘောကျစွာပြုံးလိုက်သည်။ လေပြေ့အပေါ် ညီလေးတစ်ယောက်လို ခံစားနေရတာသည် လေပြေဟူသော အမည်ကြောင့် ဖြစ်မည်ထင်သည်။ နွေဦး၏ ရင်ဘက်ထဲက ညီလေး၏ ကွက်လပ်နေရာကို လေပြေဆိုသောကောင်လေးကို အစားထိုရနိုင်လိုက်သည် ထင်ပါသည်။ သူ့တို့နှစ်ယောက်၏ လှုပ်ရှားမှုကို အစအဆုံးကြည့်နေသည့် မေသရဖူသည် အံကို တင်းတင်းကြိတ်ထားမိသည်။

Part 7

{ ဤဇာတ်လမ်းတွင်ပါသော ဇာတ်ကောင် နှင့် ဇာတ်လမ်းအသွားအလာ အားလုံးသည် စာရေးသူ၏ စိတ်ကူးယဉ်သက်သက်ဖြစ်ပါသည်။ }

ဆေးရုံးသို့ရောက်သည်နှင့် လေပြေ၏ ကျောက်ပတ်တီးကို နွေဦးကိုယ်တိုင် ဖြည်ပေးလိုက်သည်။ ထို့နောက် ခြေထောက်ကို ကိုင်ကာ လှုပ်ကြည့်ပေးသည်။

“မနာတော့ဘူးအကို အဆင်ပြေသွားပြီ…”

“ဒါနဲ့ လေပြေက ဘာအလုပ်လုပ်မှာလည်း…”

“အခုလောလောဆယ်တော့ လိုက်ရှာရဦးမှာပေါ့…”

“အလုပ်မရှိသေးဘူးဆိုရင် ကို’အလုပ်လေးတစ်ခုလောက် ကမ်းလှမ်းလို့ရမလား….”

“ဆရာ့ကို…အဲ.. အကို့ကို တော့ အားနာစရာဖြစ်နေပြီ…”

"အားနာစရာမလိုပါဘူး… အကိုလည်း လိုအပ်လို့ပါ…"

"အကိုက လိုအပ်တယ်ဆိုရင် ကျတော် လုပ်ပေးပါ့မယ်… ဘာလုပ်ရမှာလဲ…"

"လူနာပြုစုရမယ့် အလုပ်ပါ… ကို့အိမ်မှာ ကို့အမေကို ပြုစုပေးရမှာပါ…"

"ဪဟုတ်… ရပါတယ်…ဒါပေမယ့် အခုက စာမေးပွဲလည်း နီးနေတော့ ကျတော် ကျောင်းပိတ်ရက်ဘဲ အဆင်ပြေမယ် ထင်တယ်…"

"ရပါတယ်… ပိတ်ရက်ဆို ကိုလာကြိုပေးမယ်လေ… လစာကရော ဘယ်လောက်ယူမလဲ…"

"အကိုလာကြိုစရာမလိုပါဘူး… ကျတော့်ဘာသာ လာခဲ့ပါ့မယ်…"

"ဘယ်ဟုတ်မလဲ… အကို့အိမ်ကို အလုပ်လာလုပ်ရမှာ အကို လာကြိုမှာပေါ့ အဲ့ဒါကိုတော့ မငြင်းပါနဲ့…"

“ဒါဆိုလည်း ကျတော်မငြင်းတော့ပါဘူး… လစာကလည်း အကိုကြိုက်သလိုသာပေးပါ…”



